# အလှစွမ်းရည်

စီစဉ်သူ – ချမ်းမြေ့ကြည်သာ(သာစည်)

စီစစ်သူ – မွဖ်သီမုဟာမ္မဒ်အာစွင်းမ်

بسم الله الرحمن الرحيم

﴿هو الذي خلق لكم مافي الأرض جميعا﴾ ـ ٢/٢٩.

ထို(အလ္လာဟ်)အရှင်မြတ်သည် အသင်တို့အကျိုးငှာ မြေပထဝီပေါ်ရှိ အရာအားလုံးကို ဖန်ဆင်းတော်မူထား၏။(၂း၂၉)

☆ပြည့်စုံကိုလုံတော်မူသော - ပကတိအလှပိုင်ရှင် (ဂျမာလီယသ် ဂုဏ်တော်ရှင်) အလ္လာဟ် အရှင်မြတ် သခင်က မိမိပိုင်ဆိုင်တော်မူသော အလှတရားများဖြင့် ဤစကြ်ာဝဠာ ကမ္ဘာလောကကြီးအား အလှချယ်သ ပေးထားပြီးဖြစ်လေသည်။ ထို့ပြင် မိမိ၏ အဖန်ဆင်းခံ (မခ်လူးက်) အပေါင်းတို့ကိုလည်း စွမ်းရည်အလှတရား (အရည်အချင်းများ) အားပေးအပ်ပိုင်ဆိုင် စေတော် မူခဲ့လေသည်။ (١)

(١) قلت : وعلى ذلك قال الله تعالى ﴿إناجعلناماعلى الأرض زينة لها﴾ [الكهف : ٧] ، وعن أبي سعيد الخدري رضي الله عنه قال : قال رسول الله ﷺ: " إن اللهجميل يحب الجمال ، ويحب أن يرى أثر نعمته على عبده " رواه أبويعلى بسند فيه عطية العوفي ، وهوضعيف . (إتحا ف الخيرة المهرة للبوصيري كتاب اللباس ، باب إظهار النعمة ، رقم : ٣٩٧١) ولكن له شواهد كما( في المعجم الأوسط للطبراني :الرقم : ٦٩٠٦) و(المعجم الكبير :٧٨٢٢) و (جامع الأحاديث للسيوطي :٧٧٥) و (جامع الأصول في أحاديث الرسول لابن الأثير : ٧٢١٠) و (مسلم في باب تحريم الكبر وبيانه) و (كنز العمال لعلاء الدين المتقي:٧٧٤٧) و (البيهقي في شعبه : ٦٢٠١) وغير ذلك في المسانيد تركت سوقها لخشية الإطالة . (أبوعويصم الندوي )

အိုလူသား အရှင်သခင်စီစဉ်ချယ်သထားတဲ့အလှတရားများကို ပထမ ရှုစားကြည့်ကြရအောင်နော်-

☆နွေရာသီ၊ မိုးရာသီ၊ ဆောင်းရာသီ အစရှိသည့် ဥတု(၃)လီတို့ သည်ကား ရာသီစက်ဝန်း မှန်မှန်ယွန်းပြီး မိမိတို့ ရဲ့ အလှတရား စွမ်းအင် များနဲ့ ဤလူ့ကမ္ဘာ/လူ့လောကကို အကျိုးဖြစ်ထွန်း နေစေပါတယ်။

☆နွေ၏အကျိုးပြုသော အလှ မိုး၏အလှ ဆောင်း၏အလှတရား တို့တွင် ရာသီတစ်ခုချင်းစီ၏ စွမ်းရည်စွမ်းပကား အလှတရားများကိုလည်း အသင်မှ ချဲ့ထွင်စဉ်းစားခွဲခြား၍ သုံးသပ်သိမြင်ခံစား တတ်ကြစေချင် ပါတယ်။

☆ဝေနေယျများ အတွက် အသက်ရှင်ရန် အလွန်အရေးကြီးပြီး အဘိုးတန် လွန်းလှတဲ့ "လေ"သည် လည်း မဝယ်/မငှား ရဘဲ သတ္တဝါများမှာ ဆင်ရဲ/ချမ်းသာ ဘုရင်/သူတောင်းစားမခွဲခြားဘဲ သက်ရှိ မှန်သမျှ အတွက်ရှူရှိုက်ရန် ပေးဝေနေတယ်လေ။

☆နံက်ခင်းမှ လေပြေလေညှင်းရဲ့အရသာ စပါးခင်းမှ ပျံ့သင်းတဲ့လေ ပန်းမာလာဥယျာဉ်အတွင်းမှ ပန်းရနံ့သင်းတဲ့လေ ရေပြင်တလွှားမှရှပ်တိုက်ပြေးလွှားပြီး တိုက်ခတ်လာတဲ့ အေးမြသော လေနုအေးများစသည် စသည်ဖြင့် "လေ" ရဲ့အရသာအလှတရား အမျိုးမျိုးအားလည်း ရယူ၍ခံစားနိုင်ကြပေတယ်။

☆ကောင်းကင်တစ်ခွင်မှ သွန်ချလိုက်သော "ရေ" ပထဝီမြေပေါ် တစ်ခွင်မှ အကျိုးရယူခံစား နေရသော "ရေ" အမျိုးမျိုးတို့ အပြင်မြေလွှာ အောက်ဆီမှအဝီစိရေ စသည်တို့ကလည်း ဝေနေယျအပေါင်း သောက်ချိုး

ရန် သန့်ရှင်းရန် လန်းဆန်းစေရန် ကျန်းမာကြစေရန် ဤလူ့ကမ္ဘာအား မိမိတို့ရဲ့ စွမ်းရည်စွမ်းပကား အလှတရားများနဲ့အကျိုးပြုလျှက်ရှိနေကြ ပါတယ်။

☆သက်ရှိများ ရဲ့စားဝတ်နေရေးတို့အတွက်ကိုလည်း မိုးအာကာနဲ့ ပထဝီမြေလွှာတို့က မိမိတို့ရဲ့စွမ်းရည်အလှတရားချင်းပေါင်းစပ်ပြီး သကာလ လူ့ကမ္ဘာကို များစွာပင် အကျိုးပြုလျှက်ရှိနေပါတယ်။

☆သူရိယနေမင်းကြီးကလည်း သူ့အလင်းနဲ့သူ့အဆင်းနဲ့ အစွမ်းကုန်လင်းထိန်တောက်ပစွာပင် "နေ" ၏အလှအား ထင်ရှားပီပြင်စွာ ချယ်သ၍ အကျိုးပြုအစွမ်းပြ အလှချယ်သနေတယ် မဟုတ်ပါလော။

☆ထိုအတိုင်းပါပဲ ငွေစန္ဒလမင်းကလည်း အေးမြကြည်လင်ခြင်း တည်းဟူသော ည၏ ကမ္ဗလာ ဝတ်ရုံကိုခြုံရုံပြီး သာယာတဲ့ အချင်း လက္ခဏာအလင်းလက်ဖြာမှုတွေနဲ့ပဲ ညရဲ့အဆင်းအလှတရားကို ဖေါ်ကျူး၍ပြနေပါတယ်။

☆အာကာသမိုကောင်းကင်မှာ တဖျတ်ဖျတ်လက်ခါနေတဲ့ ကြယ်တာရာစိန်ပွင့်လေးများကလည်း လင်တစ်ခါမှိတ်တစ်လှဲ့မိမိတို့ရဲ့ ကိုယ်ပိုင်အဆင်းလေးနဲ့ပင် လင်းလက်တောက်ပကာနေခဲ့ကြပြီး ညဥ့်ရဲ့ အမှောင်ထဲမှာ တာဝန်ကျေစွာ ဤလူ့ကမ္ဘာကိုစွမ်းရည်အလှရှိသမျှနဲ့ အကျိုးပြုနေကြတယ်လေ။

☆လူ့ကမ္ဘာလူ့လောကကို အလှချယ်ကြရာမှ တစ်ခဏ်းတစ်ကဏ္ဍ မှပါဝင်ဆောင်ရွက်တင်နေကြပါသော"ပန်း"မာလာများဘက်သို့အာရုံပြု၍ ကြည့်ပါလျှင်အဆင်းလှသော ပန်းကလေးတွေကလည်း ဤလူ့ကမ္ဘာကြီးကို

အလှစွမ်းရည်များနှင့် မဆင်ယဉ်မချယ်သဘဲမကြွေခဲ့ကြသလိုဘဲ ရနံ့မွှေးတဲ့ပန်းကလေးတွေကလည်း မွှေးရနံ့ဆိုသော အလှစွမ်းရည်နှင့် လူ့ကမ္ဘာကိုရစ်သိုင်းသင်းထုံမမွှေးပျံ့ဘဲ မဖြာစေဘဲမကြွေလွင့်ခဲ့ကြပါလေ။

☆သမုဒ္ဒရာပင်လယ်မြစ်ချောင်း အင်းအိုင် စိမ့်စမ်းရေနှင့်တကွတောအသွယ်သွယ် တောင်အထပ် ထပ်သစ်ပင်ဝါးပင်စုံအ လင်ပါမကျန် ဂနိုင်တောခြေတောင်ခြေတို့ကလည်းမျှော်ကြည့်လေတိုင်းစိမ်းစိုညို့မှိုင်းတိမ်မင်တိမ်ခိုးတွေတဝေဝေနှင့် ကျရာတာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ကြရင်း လူ့ကမ္ဘာ/လူ့လောကအား အကျိုးပြုအလှဆင်နေကြလျှက်……

အိုလူသား…… မြင်မြင်သမျှသဘာဝတရားအားလုံး (အားလုံး) သည် ကား မိမိတို့၏ အသက်မကုန်မီ မကြွေခင် မသေခင် အချိန်ရှိတုန်းမှာတော့ဖြင့် အစွမ်းကုန်စွမ်းအင်သုံးကြပြီး ဤလူ့ကမ္ဘာကြီးကို အကျိုးပြုအလှဆင်နေကြသည်ကို အသင်မြင်ပါပြီလား? အလှပန်းစွမ်းရည်စက် အဘယ်ကပန်း ထွက်ခဲ့ပါသလဲ?

စကြဝဠာတစ်ခုလုံးကို အလှ ချယ်မှုံးခဲ့တာ ဘယ်သူပါလဲ? ဖန်ဆင်းရှင် "အလ္လာဟ်" က အားလုံးသော အဖန်ဆင်းခံများအား အကျိုးပြုတတ်တဲ့ အချင်း(အလှစွမ်းရည်စွမ်းအင်) ပါဝါ အမျိုးမျိုး ကို ပေးသနားချီးမြှင့် ပေးတော်မူတာပါ။ အလှ(စွမ်းရည်စွမ်းပကား) ဆိုသည်မှာ (မခ်လူးက်) ကို အလ္လာဟ်အရှင်မြတ်က ချီးမြှင့်တော်မူထားတဲ့ (နေ့အ်မသ်) ကျေးဇူးတော်တွေပါ။ မြင်နေသမျှအဘယ် အရာမှ အလဟာသဖန်ဆင်းထားသည် မရှိပါ။(၁)

(١) قلت : كما قال الله عزوجل : ﴿أفحسبتم أنما خلقنكم عبثا﴾، (المؤمنون :١١٣) ، ﴿ماخلقت هذا باطلا﴾

☆အို……လူသား အနှစ်ချုပ်ကို ထုတ်လိုက်ပါလျှင် ဖန်ဆင်း တော်မူသော အရှင်သခင်က ဤလူ့ကမ္ဘာကြီးအား ဦးစွာ အလှဆင်အကျိုးပြု နေခြင်းဖြစ်ပါတယ်။ အရှင်ချီးမြှင့် တော်မူထားသော ဤလောကကြီး၏ အလှတရားစွမ်းအင် စွမ်းပကားများကို အရင်းခံထားပြီးပေ့ါ။ မည်သည့် (မခ်လူးက်) အဖန်ဆင်ခံမှ အလဟာသ အကျိုးမဲ့ ဖန်ဆင်းတော် မူထားခြင်း မရှိပါ။ အပြန်အလှန်အကျိုးသက်ရောက်မှုတွေအတွက် ဖန်ဆင်းခြင်းခံ ရပါတယ်။

☆အရှင်သခင်က အကျိုးပြုခြင်းကိုလည်း နှစ်သက်တော်မူ၍ ကိုယ်တော်တိုင် အကျိုးပြုနေသကဲ့သို့ အသင်တို့၏ထံမှာချီးမြှင့်ထားသော စွမ်းရည်စွမ်းပကား အလှတရားများကိုအရင်းပြု၍ ဤလူ့ကမ္ဘာကို အလှဆင်အကျိုးပြုကြခြင်းကိုလည်း လိုလားနှစ်သက်တော်မူပေတယ်။(၁)

အို……လူသား အသင်ကလည်း မိမိ၏အရှင်ပေးသနားချီးမြှင့် တော်မူသော ကိုယ့်စွမ်းရည်စွမ်းပကား အလှတရားတို့ဖြင့် ကိုယ်ကျွမ်းကျင် ရာကဏ္ဍမှ လူ့ကမ္ဘာကြီးအား အလှဆင် ချယ်သစမ်းပါလေ။(၁)

အို……လူသား အနည်းငယ် စဉ်းစားဆင်ခြင်တတ်ပါသော် အကယ်၍မျှား လူဆိုတာကိုယ်ကျိုးရှာ အတ္တသမားဖြစ်တယ်ဆိုရင် ကိုယ်အကျိုးရှိဘို့အတွက် "သူများကို" အကျိုးပြုရပါလိမ့်မယ်- ဒ့ါကြောင့် <u>ကိုယ်ကျိုးရှာဘို့အတွက် သူများအကျိုးကို</u>

---

(١) قلت :وفي ذلك قال رسول الله ﷺ : "الخلق عيال الله فأحبهم إلى الله أنفعهم لعياله" أخرجه (أبويعلى في مسنده :٣٣١٥ ، والبزار:٦٩٤٧ عن أنس ) [المناوي] والسيوطي في ( جامع الأحاديث : ١٢٢٠٩ ) و الطبراني في (المعجم الأوسط: ٥٥٤١ ) وعلي المتقي في ( كنز العمال :١٦١٧٠/١٦١٧١ ) والبيهقي في (شعب الإيمان :٧٠٤٥/٧٠٤٨)

ဦးစွာစတင် ဆောင်ရွက်ပါ။ အကျိုးပြုစမ်းပါလေ။ ထိုသို့သော ကိုယ်ကျိုးရှာမှုကနောင်တမလွန်ထိအောင်ပါသွားမယ့် ကိုယ်ကျိုးရှာမှု အစစ်ပါ ကိုယ်ကျိုးရှာမများကြပါစေနှင့်။

☆အရှင်သခင်ချီးမြှင့်ပေးအပ်ထားသည့်ကိုယ့်စွမ်းရည် စွမ်းပကား က ကိုယ့်ရဲ့အလှတရား ပင်မဟုတ်ပါလော?
ထိုအလှစွမ်းရည်စွမ်းပကားများနှင့် ဤလူ့ကမ္ဘာကိုပီပြင်စွာ အကျိုးပြု အလှဆင်ကြစမ်းပါလေ။

☆အရှင်ချီးမြှင့်တော်မူထားတဲ့ ကိုယ်ပိုင်အရည်အချင်း ကိုယ်ပိုင် စွမ်းအင် ကိုယ်ပိုင်အဆင်းကိုယ်ပိုင် အလင်းတွေနဲ့ ဤလူ့ကမ္ဘာကြီးအား တောက်ပမှုအလင်းရောင်တွေ ပေါ်ပေါက်ထင်ရှားပါစေ။ ကိုယ့်ကြောင့်ဤလူ့ကမ္ဘာ လူ့လောက သာယာလှပပါစေ။ကိုယ့်ကြောင့် ဤကမ္ဘာမှာ အရုပ်ဆိုးအကျည်းတန်အောင်ညစ်ညမ်းမှုများစွာနှင့် မလိမ်းကျံမညစ်နွမ်းပါစေနှင့်။

**☆ပန်ကြားလိုပေသည် အို……လူသား**

အသင်သည်ကား ကိုယ်ကျိုးရှာအတ္တသမားဘဝဖြင့် ကြွေမသွား/သေမသွား ပါစေနှင့်။ ဤလူ့ကမ္ဘာကို ခွဲခွာမသွားမိပါစေနှင့်။
စွမ်းနိုင်သမျှ လူ့ကမ္ဘာကို အကျိုးပြုအလှဆင်သူ အဖြစ်နှင့်သာ ကြွေသွား/ သေသွား ဖြစ်ကြ၍ ဤနည်းဖြင့်သာ ဤလူ့ကမ္ဘာကို ခွဲခွာထားရစ်ခဲ့ ကြပါလေ။
ဤလောကီတွင် သင်၏ ကွယ်လွန်သေဆုံးခြင်းမှာ မွန်မြတ်ပါစေ။ သင်၏ကွယ်လွန်သေဆုံးမှုအပေါ်တွင် လူ့ကမ္ဘာကြီးက နှမြောတမ်းတပြီး

ကျန်ရစ်ကာနေခဲ့ပါစေ။ သို့မှ အသင်သည် အဓိပ္ပါယ်ရှိသော လူသား ပီသပေမည်မဟုတ်ပါလော……အလ္လာဟ်အသျှင်မြတ်ကကေယာမသ်နေ့မှာ အမေးတော်ရှိမည်။ အသင်သည် ခြေ(၄) ချောင်းတိရိစ္ဆာန် ကဲ့သို့ဝမ်းစာ ရှာဖွေရေးမှာပဲ လုံးပန်း၍ ပြန်ခဲ့ပါသလော့?(၁)

အို…… လူသား အရည်အသွေးပြည့်ဝတာ "ပုလဲရတနာ" ပါ။ အရည်အသွေးကင်းမဲ့တာ " ရေမြှုတ် ပမာပါ။ ဤလူ့ကမ္ဘာ လူ့လောကမှာ အမြတ်ဆုံး အဖန်ဆင်းခံ (လူ) ဖြစ်ခဲ့ပါလျှက် လူ့ကမ္ဘာကို ကိုယ့်စွမ်းရည် အလှနှင့်မှအကျိုးပြု အလှမဆင်နိုင်ခဲ့တာ ရှက်ဘွယ်ရာပါ။ ဤလူ့ကမ္ဘာကို ဤနည်းအတိုင်းတော့ဖြင့် ကျောခိုင်း၍ မသွားလိုက်ပါနှင့်။

အရည်အသွေး ပြည့်ဝ အဘိုးတန်လှတဲ့ ပုလဲရတနာ ဖြစ်စေရန်မှာ မူလပထမ အရေးကြီးတာက " အေလင်မ်ပညာအသိပညာ" ကို ရှာဖွေသင်ကြားရယူကြရမှာ ဖြစ်တယ်။

ထို"အေလင်မ်" အသိပညာ သည်သာလျှင် (အမှန်နှင့် အမှား) (အကောင်းနှင့် အဆိုး)(တရားမျှတမှု နှင့် မတရားမှု)တို့ကို ခွဲခြားနားလည် သိမြင်နိုင်စွမ်း ချင့်ချိန်ဆုံးဖြတ်နိုင်စွမ်း တို့ကို ရရှိပြီး တန်ဘိုးရှိ လူသား (ပြည့်ဝတဲ့ ပုလဲရတနာ ) ဖြစ်ကြပေမယ်လေ။ ဒါ့ကြောင့် အသိပညာသည် ပထမ ဆည်းပူးရမည့် အဓိကတာဝန်ဖြစ်ကြောင်းသိမှတ် နားလည်ထား စမ်းပါ။

အို…… လူသား ငွေရှိရင် ရွှေဝယ်လို့ ရပါတယ်။ ငွေရှိသော်လည်း ဝယ်လို့မရနိုင်တာကတော့ "ဘဝသက်တန်းရဲ့ အချိန်" တွေပါ။ ရွှေ / ငွေ နှင့်ပင် စက်ဝယ်၍ မရနိုင်တဲ့တန်ဘိုးရှိလှ သော ကိုယ့်ဘဝသက်တန်းရဲ့

"အချိန်" တွေကို အလဟဿ အချီးအနှီး လုပ်ငန်းစဉ်တွေထဲမှာ မဖြုန်းတီးလိုက်မိပါစေနှင့်။

အများတကာတို့ရဲ့ အတင်းအဖျင်းစကားတွေကို ပြောဆိုပြီး "အချိန်" တွေကို ကုန်လွန်စေမယ့်အစား အရှင်သခင်ချီးမြှင့် ပေးသနားထားတဲ့ ကိုယ့်အစွမ်း ကိုမြှင့်တင်ပြီး ကိုယ်စွမ်းရည် စွမ်းပကားတို့ ကျရာနေရာမှာ ပီပြင်စွာပြနိုင် အကျိုးပြုနိုင် အလှူဆင်နိုင်ကြစေရန် မည်မျှ ကျိုးပန်းလုပ်ဆောင် နေသင့် ကြပါသနည်း။ ဆိုသည်ကို စဉ်းစား ဆင်ခြင်၍ အဖြေထုတ် သင့်ကြပေပြီ။

အို…… လူသားသရက်စေ့တစ်စေ့ဟာမိမိရဲ့ခန္ဓာကိုယ်အား ရွှံ့နွံများနဲ့ လူးပြီးသကာလ မြေထဲမှာ အနစ်နာခံ၍ မြုပ်နှံခဲ့ခြင်းအပေါ်မှာ အညှောင့်ထွက် အပင်ပေါက် အသီးတွေ သီးလာပြီး လူသားများစွာကို အကျိုးဖြစ်ထွန်း (စားသုံး) စေခဲ့ပါတယ်။ ဤအရာကို ပမာထားပြီး အဖန်ဆင်းခံတို့တွင် (အမွန်မြတ်ဆုံး) ပါဟုဖန်ဆင်းရှင် ကိုယ်တော်တိုင်က မိန့်မြွက်ထားခြင်းခံရတဲ့ အသင်လူသားသည် လည်း ဤ လူ့ကမ္ဘာကို မုချ အကျိုးပြု အလှူဆင်တတ်ကြရမယ်လေ။

အို…… လူသား ဤလူ့ကမ္ဘာအားအကျိုးထင်အောင် အလှူဆင်ယဉ်ကြလျှက် အနစ်နာခံ၍ အကျိုးဆောင်သွားကြမည်လော- (သို့)အကျိုးပျက်စီးအချီးနှီးဖြစ်စေပြီး ဤလူ့ကမ္ဘာကို သဘောရိုင်းနှင့် ကျော်ခိုင်း သွားကြမည်လော…… ဆိုသည်ကို တော့ ဆင်ခြင်သုံးသပ် ဆုံးဖြတ်ရန်မှာ အသင့်တာဝန်သာဖြစ်လေသည် မဟုတ်ပါလော?

သတိထားရမှာက အို…… လူသား

"ကိုယ့်အလှကိုယ်ဆင် ယဉ်အောင်သာ ချယ်သ။ သူ့အလှဂုဏ်သိန် ညှိုးအောင်နှိမ်မချိုးရ။" ထိုအတိုင်းပါပဲ "ကိုယ့်အစွမ်းကိုယ်မြှင့်တင် ပီပြင်အောင်ပြ ၊ သူ့စွမ်းအင် သူ့လုပ်ရပ် မပုတ်ခတ်ရ။" ဆိုသည်ကို တော့မှတ်သားလိုက်နာအပ်တဲ့ မွန်မြတ်သောလမ်းညွှန် စကားရပ်အဖြစ် လက်ခံကျင့်သုံးသွားကြပါလျှင်ဖြင့် ဤစာစဉ်အားရေးသားပြုစုတင်ပြရကျိုး နပ်ပြီဖြစ်ပါကြောင်း။

*ရာဇဝင်သမိုင်းကြောင်းတစ်ခုမှ အလှတရားကို ရှာဖွေခြင်း*

စိုလိုင်မာန်ဗင် အဗ္ဗဒွလ် မာလစ်က် ဘုရင်ကြီး (ဒေမစ်ရှ်က်) မြို့တော်၌ နန်းစိုက်စိုးစံတော်မူသော အချိန်ကာလတွင် ယူဖရေးတီးနှင့် တိုက်ဂရစ်မြစ်အကြားရှိ (ဂျဇီရာ) ဟူသော ပြည်နယ်သည် ထိုဘုရင်ကြီး ၏ လက်အောက်ခံ ပြည်နယ်ဖြစ်ပြီး"အစ်က်ရေ့မဟ်"အားဘုရင်ခံ အဖြစ်ခန့်အပ်အုပ်ချုပ်စေခဲ့လေသည်။

ဂျဇီရာပြည်နယ်တွင် အလွန်ကျော်ကြား၍ဂုဏ်သရေရှိသော "ခိုဇိုင်မဟ်"ဆိုသော သူဌေးတစ်ယောက်ရှိ၏။ အလွန်ချမ်းသာ ကြွယ်ဝ၍ သြဇာတိက္ကမ အပြည့်အဝရှိသူဖြစ်ပေသည်။ စာပေဝါသနာရှင် တစ်ဦးဖြစ်ပြီး စာပေများကိုလည်းကောင်းစွာတတ်ကျွမ်း၏။ စာပေသင်ကြားလိုသူတို့အားအထူးကူညီ ထောက်ပံ့သူလည်း ဖြစ်၏။ ရပ်ဝေးမှစာပေစာဆို ဝါသနာ ရှင်ပညာရှင်များပင် သူ၏ထံလာရောက် တည်းခိုကြပြီး စာပေဆွေးနွေးကြကာ သူ၏ အရိပ်အာဝါသတွင် ပျော်ရွှင်လျှက် ရှိကြပေသည်။ ဆင်ရဲသားတို့၏ မိတ်ဆွေကြီး လည်းဖြစ်သည့်ပြင် ဘုရင်ကြီး ဆိုလိုင်မန်ဘင် အဗ္ဗဒွလ်မာလစ်က်နှင့်ပင်

ခင်မင်ရင်းနှီးခဲ့လေသည်။ ချမ်းသာကြွယ်ဝမှု ပေးကမ်းရက်ရောမှု ဩဇာရှိမှုတို့ကြောင့် " ခိုဇိုင်မဟ်" ၏ အနားတွင် အချွေအရံများပေါများစွာရှိနေ၏။ မိတ်ဆွေအပေါင်းအသင်းများ ဝိုင်းဝိုင်းလည်နေခဲ့ပေသည်။ ချွေနိုင်၍ ရံနေကြခြင်းဖြစ်လေသည်။

ဖနာသခ်ါရ မမြဲသော လောကဓမ္မတာအရ တစ်ချိန်သောအခါတွင် "ခိုဇိုင်မဟ်" သည် ရုတ်တရက် ကံဆိုးမိုးမှောင် ကျခဲ့လေတော့၏။ နေတက်ချိန်ရှိသကဲ့သို့ နေကျချိန်လည်းရှိတတ်ပေသည်မဟုတ်လော? ကြွယ်ဝချမ်းသာသမျှ ပျက်စီးဆုတ်ယုတ်မှု ကျရောက်ကာဆုံးရှုံးမှုများနှင့် ရင်ဆိုင်ရတော့၏။ စီးပွားကျဆင်း မှုနှင့် အတူဩဇာတိက္ကမ လည်း ကျဆင်းသွားပေတော့၏။ သူချွေနိုင်သဖြင့်ရံနေကြသည့်မိတ်ဆွေများက တစ တစနှင့် သူ့ထံမှ ခွဲခွာသွားကြ၏။ သူ့ကိုချစ်ခင်နေကြသည်ဟု ထင်နေမိသော မိတ်ဆွေတို့ကလည်း တရွေ့ရွေ့ကျောခိုင်းခွဲခွာသွားကြလေသည်။ ထို့ကြောင့်(၃)ဦးသော သူအား (၃)နေရာ၌-သူရဲကောင်းကို စစ်တိုက်ချိန်မှာ ရှာတွေ့လိမ့်မည်။ မျိုးသိပ်သီးခံနိုင်သူကို ဒေါသဖြစ်ချိန်မှာရှာတွေ့ လိမ့်မည်။ မိတ်ဆွေကောင်းကိုမူဆင်းရဲချိန်မှာရှာတွေ့လိမ့်မည်ဖြစ်၏။

ခိုဇိုင်မဟ်ခမျာ ကျေးဇူးကန်းသောမိတ်ဆွေများ၊စိမ်းကားသွေဖီသော မိတ်ဆွေများကြောင့် ကြေကွဲဝမ်းနဲရသည်။ စိတ်ဆင်းရဲကိုယ်ဆင်းရဲ အဖြစ်များနှင့် ကြုံဆုံရသည်။ ငွေကြေးပြတ်လပ်မှုအပေါ်အပြင်ထွက်၍ ရှာဖွေရန်လည်း မိတ်ဆွေများကပင်ရှောင်ကျဉ်နေကြသဖြင့် စိတ်ဓါတ်ကျ ကာမည်သို့ကြံဖန်ရမည် မသိသဖြင့်

အိမ်တွင်းအောင်း၍ ပင်နေတော့၏။ ရှိပစ္စည်းတို့အား တစတစနှင့် ရောင်းချစားသောက် နေထိုင်ခဲ့ရပြီး ချို့တဲ့သော ဘဝကို ကြွံကြွံခံရင်ဆိုင်ခဲ့ရလေသည်။

ထိုနည်းဖြင့် ရက်ကိုလစား လကို နှစ်စား ကြာမြင့်လာလေသော အခါ ခိုဇိုင်မဟ်ခမျာ အငတ်ဘေးဆိုက်လာလေတော့၏။

ဂျဇီရာဟ် ပြည်နယ်၏ ဘုရင်ခံ “အီကိရေ့မဟ်” သည်စိတ်နေ သဘောထား အလွန်ကောင်းမွန် မြင့်မြတ်သော သူဖြစ်လေသည်။ တစ်နေ့သောအခါ ဆွေးနွေးပွဲတစ်ခုတွင် “ခိုဇိုင်မဟ်” ၏ အဖြစ်ဆိုး အပြောင်းအလဲအား တီးတိုးပြောဆိုနေသံကို တစ်ခွန်းတစ်စ ဘုရင်ခံ အစ်ကိရေ့မဟ်က ကြားမိလိုက်လေသည်။ ကြားသိရသည့် သတင်းကို ဘုရင်ခံက ထုတ်ဖော်မေးမြန်းသော အခါ တီးတိုးပြောဆိုနေသူများက စကားလမ်းကြောင်းကို ပြောင်းလဲပစ်လိုက် လေသည်။ ဘုရင်ခံ အစ်ကိရေ့မဟ် သည်တစ်စွန်းတစ်ကြားသိလိုက်ရသော ခိုဇိုင်မဟ် ၏အဖြစ်ဆိုးအတွက် အစီအစဉ်များကို အထူးစဉ်းစားခဲ့လေသည်။ ညဥ့်တစ်ညဥ့် သန်းခေါင်ယံအချိန်တွင် ဘုရင်ခံအစ်ကိရေ့မဟ်သည် ကျွန်ယုံတစ်ယောက်နှင့်အတူ အထုတ်တစ်ထုတ်ကို ပိုက်လျှက်မြင်းစီးကာ နန်းတော်မှ ထွက်လာခဲ့လေသည်။ ခိုဇိုင်မဟ်၏ အိမ်နှင့် မနီးမဝေး သို့ရောက်လေသောအခါ ကျွန်ယုံကိုလမ်းပေါ်တွင်ထားရစ်ခဲ့ပြီး မြင်းပေါ်မှ ဆင်းသက်ကာခိုဇိုင်မဟ် ၏ အိမ်သို့ပုန်းကွယ်လျှိုးကာသွား ရောက်ခဲ့လေသည်။ တံခါးခေါက်လိုက်သောအခါ ခိုဇိုင်မဟ်သည် အိပ်နေရာမှ နိုးလားခဲ့ပြီး ဝေးလံသောဤနေရာသို့ညနက်သန်းခေါင်

ရောက်လာသောညည့်သည်မှာ မည်သူပါနည်းဟု အံ့အားသင့်ကာ တံခါးကို ဖွင့်လိုက်လေသည်။

"အတ်စ်စလာမို့အလိုင်းကွန်း(မ်)" ဟူသော စလာမ်သံနှင့် အတူ ဘုရင်ခံ အစ်က်ရေ့မဟ် သည် မိမိလက်ထဲမှ အထုတ်အား ခိုဇိုင်မာဟ် ၏ လက်ထဲသို့ ထည့်လိုက်ပြီးလျှင် '' ခင်ဗျား၏ ဆန္ဒများကို ဖြည့်စွက်ရန်ဖြစ်ပါသည်။" ဟုပြောဆိုကာ ပြန်ထွက်ရန် အလှည့်တွင် ခိုဇိုင်မဟ် သည် ဘုရင်ခံ၏ အကျႌစကို လှမ်းဆွဲခဲ့ပြီး စလာမ်ကို ဂျဝါဗ်ပြန်၍ မေးခဲ့လေသည်။ "သင်ဟာ ကျွန်တော့် ဘဝရဲ့ကယ်တင်ရှင် ပါပဲ။ ခင်ဗျားဘယ်သူလဲ ဆိုတာသိပါရစေ။ ဘုရင်ခံက " မိတ်ဆွေ ကျုပ်ဘယ်သူလဲဆိုတာ သိစေချင်ရင် ခုလိုညသန်းခေါင်မှာ ခင်ဗျားဆီကို လာမှာ မဟုတ်ပါ။" လို့ပြန်ပြောခဲ့လေသည်။

ခိုဇိုင်မဟ်က '' အလ္လာဟ့်နာမတော်နဲ့ ကျိန်ဆိုပါတယ်။ ကျွန်တော့်ကို ကျေးဇူးပြုသူရဲ့အမည်ကို မသိရဘဲ လက်ဆောင်ကို လက်မခံ ပါရစေနဲ့။" ဟုပြောလိုက်အခါ " ကျုပ်နာမည်ကို "ကယ်တင်ရှင်" လို့ပဲ အလွယ်တကူ မှတ်ထားလိုက်ပေါ့။ ခိုဇိုင်မဟ်က "ခင်ဗျားရဲ့အကြောင်းကို ဆက်ပြောပါဦး လို့ပြောဆိုပေမဲ့ ဘုရင်ခံ အစ်က်ရေ့မဟ် ဟာ မိမိရဲ့ အကျႌစကို ပြန်ဆွဲဆောင့်ပြီး အိမ်တံခါးဝမှ ပြေးထွက်သွားပါတော့၏။

ထိုအချိန်နန်းတော်တွင် ဘုရင်ခံ အစ်က်ရေ့မဟ် ဇနီးမိဖုရားသည် တစ်ရေးနိုးအိပ်ယာထတွင် မိမိ၏ ခင်ပွန်းလင်ဘုရင်ခံ အား အိပ်ယာတွင် မတွေ့ရသောအခါ အလွန်ပင်တုန်လှုပ်ထိတ်လန့်သွားခဲ့ပေ၏။ ခင်ပွန်းလင် ဘုရင်ခံအတွက် ဖြစ်နိုင်ချေရှိသော အန္တရာယ်အသွယ်သွယ်ကို တွေးတော

ပူပန်ခဲ့လေရာ ထိုအထဲမှ အစိုးရိမ်ဆုံး သောကမှာ မိန်းမသားတို့သဘာဝ အချစ်သစ်ရှာဖွေသွားမည်ကို အစိုးရိမ်ဆုံးဖြစ်ခဲ့ရလေသည်။ မိဖုရားမှာ ဤကဲ့သို့ အတွေးပေါင်းစုံဖြင့် ရောက်ယက်ခတ်နေစဉ် ဘုရင်ခံ အစ်ကိုရေ့မဟ်သည်လည်း အိပ်ခန်းဆောင်သို့ပြန်ရောက်လာခဲ့လေသည်။

မိဖုရားသည် ဘုရင်ခံအား မည်သည့် အရပ်ကို သွားရောက်ခဲ့သနည်း ဆိုသည်ကို စိုးရိမ်တကြီး မေးမြန်းခဲ့လေသည်။

အစ်ကိုရေ့မဟ်က ချော့မော့၍ "အချစ်" ရယ် ငါ့ကိုခွင့်လွှတ်ပါ နော်။ ငါပြောပြလို့ မဖြစ်တဲ့ကိစ္စမျိုး ဖြစ်နေတယ်။ မဟုတ်ဘူးဆိုရင်တော့ တစ်လုံးမကျန်ပြောပြဖြစ်မှာပါ။" ဟု နှစ်သိမ့်ပေမယ့် မိဖုရား အနေနှင့် မပြောလျှင် ပြီးမည်မဟုတ်သော သံသယ ၏ အခြေအနေတွင်ရှိနေသည့် အတွက် အစ်ကိုရေ့မဟ်သည် မတတ်သာတော့ဘဲ ဖြစ်သမျှ အကြောင်း အလုံးစုံကို ပြောဆိုခဲ့ရလေတော့၏။

ဘုရင်ခံသည် မိဖုရားအားထပ်မံ၍ သတိပေးခဲ့သည်မှာ "ဒီကိစ္စ နှင့် ပါတ်သက်ပြီး နှုတ်လုံရမည်ဖြစ်ကြောင်း မည်သူ့ကိုမှ အသိမပေးရ။ မိုးပေါ်မှ အလ္လာဟ်နှင့် မြေပေါ်မှာ ဒို့နှစ်ယောက်အပြင် မည်သူမှ မသိရှိပါစေနှင့်။" ဟု နှုတ်ပိတ်ခဲ့လေသည်။

ထိုအချိန်တွင် ခိုဇိုင်မဟ် ၏ အိမ်တွင် မမျှော်လင့်ဘဲရောက် လာခဲ့သည့်လက်ဆောင်ထုတ်အား ရင်မှာပိုက်လျှက် ဇနီးဖြစ်သူကို အထုတ်ဖွင့်ကြည့်ရန် မီးထွန်းခိုင်း၏။ သို့ရာတွင် မီးထွန်းရန်ဆီမရှိသော ကြောင့် ဇနီးမောင်နှံတို့မှာအထုတ်ကိုအလယ်မှာ ချထားပြီး မိုးအလင်းနေ အထွက်ကိုသာစောင့်ကြရှာရလေသည်။ နေထွက်လာသော အခါကျမှ

အထုတ်ကို ဖြေကြည့်ရာ ရွှေဒင်္ဂါးပြား(၄၀၀၀) ကို တွေ့ကြရလေသည်။ ထိုရွှေဒင်္ဂါးပြား (၄၀၀၀) သည် ခိုဇိုင်မာ၏ ဘဝကို ပြောင်းလဲစေခဲ့လေသည်။ ကြွေးများကိုလည်း ရှင်းလင်းနိုင်ခဲ့သည်။ အိမ်၏ လိုအပ်ချက်များကိုလည်း ဖြည့်ဆည်းနိုင်ခဲ့သည်။ သာယာစိုပြေမှုများကို ရရှိခံစားလာရသည်။ ကောင်းမွန်သော ဝတ်စုံတစ်စုံကို ဝယ်ယူဝတ်ဆင်၍ စိုလိုင်မာန်ဗင်န် အဗ္ဗဒ္ဒလ် မလိက် နန်းစံရာ ဒမတ်စ်ကဒ် မြို့တော်သို့ ထွက်လာခဲ့လေသည်။ မတွေ့ရသည်မှာ ကြာပြီ ဖြစ်သောကြောင့် သတိရ အောင်းမေ့မှုဖြင့် တွေ့ဆုံရန် သွားရောက်ခြင်းဖြစ်လေသည်။

ဒမတ်စ်ကဒ် သို့ရောက်လေသော် ဘုရင်ကြီးမှာ ဝမ်းသာလှိုက်လှဲစွာ ဂုဏ်ပြုဧည့်ခံ ခဲ့ပြီး အချိန်အတော်ကြာအောင်ပင် မြို့တော်သို့ မလာရောက်ခြင်းအကြောင်းရင်းကို မေးမြန်းစုံစမ်းတော် မူခဲ့လေသည်။ ခိုဇိုင်မဟ်ကလည်း မိမိ၏ ကြေကွဲဘွယ်ရာ အဖြစ်သနစ်စုံတို့အားတင်ပြ လျှောက်ထားခဲ့လေသည်။ ကံဆိုးမိုးမှောင်ကျခဲ့ ရပုံများ မိတ်ဆွေ အတုအယောက်များ၏ သစ္စာမဲ့မှုများ ကို ကြေကွဲစွာပြောပြလျှောက်ထားခဲ့ပြီး ထူးဆန်းသော “ ကယ်တင်ရှင်” ၏ ကူညီမှုများကိုပါ အစီရင်ခံ တင်ပြလေသောအခါ ဘုရင်ကြီးမှာ ဖုံးအုပ်၍ ကျေးဇူးပြုသွားခဲ့သော ထိုလူသားအား အံ့ဩခြင်းကြီးမား စွာဖြင့်ဤသို့ မိန့်ခဲ့လေသည်။

“ အို…… မြင့်မြတ်သော ဝိဉာဉ်ပါတကား- ထိုသူဟာ အမှန် ချီးကျူးထိုက်သူ ဂုဏ်ပြုထိုက်သူဖြစ်ပေတယ်။ အို…… ခိုဇိုင်မာ အသင့်ရဲ့ “ကယ်တင်ရှင်” ကို ကျွန်ုပ်လေးစားစွာတွေ့မြင်လိုပါတယ်။ မည်သည့်အခါ

မှာ အသင်ဟာ ထို " ကယ်တင်ရှင်" အား တွေ့ဆုံခဲ့ရပါလျှင် ကျွန်ုပ်ထံသို့ ထို "ကယ်တင်ရှင်" အား ဆက်ဆက်ခေါ်ဆောင်လာခဲ့ပါ။ ကျွန်ုပ်သူ့အား လေးစားမှုဖြင့် ဂါရဝ ပြုလိုပါတယ်။" ဟု လေးနက်စွာ မှာကြားတော်မူခဲ့ပါ၏။

ထို့နောက် ခိုဖိုင်မဟ် သည် ဘုရင်ကြီး၏ အထူးဧည့်သည်တော် အဖြစ်နှင့် မြို့တော်တွင် နေထိုင်ခဲ့ လေသည်။

ထိုအချိန်အတွင်း ဂျဇီရဟ် ပြည်နယ်၏ ဘုရင်ခံ အစ်ရေ့မဟ် ၏ မကောင်းသတင်းများက ဘုရင်ကြီး ထံသို့ အဆက်မပြတ်ရောက် လာခဲ့လေသည်။ ထို့ကြောင့်ဘုရင်ကြီးသည် အစ်က်ရေ့မဟ် အားဘုရင်ခံ ရာထူးမှ ချလိုက်ပြီး မြို့တော်၌ ရောက်ရှိနေသည့် ဧည့်သည်တော် "ခိုဖိုင်မဟ်" အား ဂျဇီရဟ် ၏ ဘုရင်ခံ အဖြစ်ခန့်အပ်လိုက်လေ၏။

ဖနာလောက သင်္ခါရ မမြဲသော တရားသည်ကား ဤလောကီတွင် အံ့သြဘွယ်ရာ သံဝေဂ ရယူဘွယ်ရာပင်ဖြစ်လေသည်။

ဘုရင်ခံသစ်ခိုဖိုင်မဟ် သည် ခြွေရံသင်ပင်းများစွာဖြင့် ဒမတ်စ်ကဒ် မြို့တော်မှ ဂျဇီရဟ်သို့ ထွက်ခွာ ကြွမြန်းတော်မူလာနေသည်။ နန်းကျ ဘုရင်ခံအစ်က်ရေ့မဟ် ကလည်း အခမ်းအနားနှင့် ဘုရင်ခံသစ်ကို မြို့ပြင်ထွက်၍ ကြိုဆိုဂုဏ်ပြုနေခဲ့ပေသည်။ ပြောင်းလဲမှုအဖြစ်အပျက် တို့သည်ကား အံ့သြတုန်လှုပ်ဘွယ်ရာကောင်းလှအောင်ပင် ပြောင်းလဲ မှုမြန်ဆန်လှပါပေတကား။

ဂျဇီရဟ်သို့ခိုဖိုင်မဟ် ရောက်ရှိပြီးနောက် ရာထူးအပြောင်းအလဲ တွင် အားလုံးအဆင်ပြေပါသော်လည်း ဘဏ္ဍာတိုက်မှ ရွှေဒင်္ဂါးအပြား

(၄၀၀၀) မှာကား စာရင်းမရှိ ပျောက်ချက်သားကောင်းနေသဖြင့် စိတ်ဒုက္ခတွေ့ရလေ၏။ ထိုငွေနှင့်ပတ်သက်၍ နန်းကျအစ်ကရေ့မယ်က မိမိသုံးစွဲပါ ကြောင်း ဖြောင့်ချက်ပေးသော်လည်း မည်သည့်နေရာမှာ သုံးစွဲခဲ့သည်ကိုတော့ လုံး၀ ရေငုံနုတ်ပိတ် နေခဲ့လေသည်။

ခိုဇိုင်မယ် က တာဝန်အရ ထိုငွေနှင့် ပါတ်သက်၍ ဖြည့်ပေးရန် တောင်းပန်ခဲ့သည်။ မဖြည့်နိုင်ခဲ့ပါသော် မလွဲမရှောင်သာပင် ဘုရင်ကြီးထံ အစီရင်ခံရပါတော့မည်ဖြစ်ကြောင်း တင်ပြခဲ့လေရာ အစ်ကရေ့မယ် က "ကျွန်ုပ်မှာ ပေးဆပ်စရာ မရှိပါသောကြောင့် တာဝန်ဝတ္တရား အတိုင်းသာ ဆောင်ရွက် ပါလေတော့" ဟုသာ ပြောနိုင်ရှာခဲ့လေသည်။

မကြာမီ ထိုသတင်းသည် ဒမတ်စ်ကဒ် မြို့တော် ဘုရင်ကြီး ထံ ရောက်ရှိအစီအရင်ခံပြီးသည့်နောက် တွင် ဘုရင်ကြီးထံမှ ဘုရင့် ဘဏ္ဍာတော်အလွဲသုံးစား ပြုမှုဖြင့် နန်းကျဘုရင်ခံဟောင်း အစ်ကရေ့မယ် အား ဖမ်းဆီးပြီး ထောင်ချရန် အမိန့်ထုတ်ပြန်လိုက်လေတော့၏။ အစ်ကရေ့မယ် သည် ဇနီးဖြစ်သူနှင့် ကျွန်ယုံအမျိုးသမီးငယ်လေး တစ်ယောက်နှင့် အတူပေးလာသော ပြစ်ဒဏ်ကို ကြည့်ဖြူစွာ ခံယူလျှက် ထောင်ကျခံလိုက်လေတော့၏။

ဘုရင်ခံသစ် ခိုဇိုင်မယ် သည်ကား ကြီးမားသော ရာထူးနှင့် ခမ်းနားထယ်ဝါသော စည်းစိမ်ချမ်းသာမှုတို့ကို ရယူစံစား နေရသောအချိန်တွင် ၎င်းအားတစ်ချိန်က ကူညီခဲ့သည့် ကယ်တင်ခဲ့သည့် ဖုံးအုပ်၍ ကျေးဇူးပြုခဲ့သည့် ကျေးဇူးတရားကိုလည်း ဖုံးအုပ်ထားရှာသည့် နန်းကျဘုရင်ခံဟောင်း အစ်ကရေ့မယ် မှာကား အကျဉ်းထောင် အတွင်း၌

ပင်ပန်းဆင်ရဲကြီးစွားနေရရှာလေသည်။ အချိန်ကြာလာသည်နှင့် အမျှ စိတ်ဒုက္ခလူဒုက္ခတို့ဖြင့် ဝေဒနာများခံစားလာရပြီး အားအင်များလည်း ပြတ်လပ် ကုန်ခမ်းကာ အသက်ဘေးကိုပင် စိုးရိမ်လာရသောအခြေအနေ ထိတိုင် ဆိုးဝါးလာခဲ့ရပေသည်။

ခင်ပွန်းဖြစ်သူ၏ ဆိုးဝါးလှစွာသောအခြေအနေအရပ်ရပ်ကို ကြည့်မြင်ပြီး နန်းကျ မိဖုရားဇနီးဖြစ်သူမှာ ဖြေမဆည်နိုင်အောင်ပင် စိတ်ဆင်းရဲရပေသည်။ မျှော်လင့်ချက်ကင်းမဲ့လောက်အောင် ဆိုးဝါးလှသည့် ခင်ပွန်း၏ အဖြစ်ဆိုးကိုလည်း မိန်းမသားပီပီ ကြာရှည်သီးခံ မျိုသိပ်နိုင်စွမ်း ငှာမရှိတော့ပြီး ထိန်းချုပ်နုတ်ပိတ်ထားနိုင် သည့် အတိုင်းအတာမရှိတော့သည့်အခါ မိမိ၏ ကျွန်မလေးအား ဘုရင်ခံသစ် ခိုဗိုင်မဟ် ထံသို့စေလွှတ်ခဲ့လေသည်။ ခင်ပွန်းလင်သိပါက ခွင့်မပြုမည်စိုးသော ကြောင့် ကျွန်မလေး ကို လျှို့ဝှက်စကား အားအထူးမှာ ကြားပြီး စေလွှတ်ခဲ့ခြင်းဖြစ်လေသည်။ တစ်ချိန်က ကျေးဇူးရှင် အစ်က်ရေ့မဟ်၏ ရင်နှင့်ဖွယ်အဖြစ်ဆိုးအား ဘုရင်ခံခိုဗိုင်မာနှင့်တွေ့ဆုံပြီး တိုက်ရိုက်ပြော ပြပေးရန် ကျွန်မလေး ကိုစေခိုင်းခဲ့လေသည်။ ကျွန်မလေးကလည်း ဉာဏ်အမျှော်အမြင်ရှိ၍ သခင်(၂)ပါး၏ တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ပေးလိုသောရဲရင့်မှု သတ္တိလည်းရှိပေသည်။ ကျွန်မလေးခမျာ ဘုရင်ခံနှင့်တွေ့ဆုံနိုင်ရန်အတွက်အမျိုးမျိုးသော အခက်အခဲ ဒုက္ခများကိုခံယူကာကျိုးစားခဲ့ရရှာသည်။ တစ်နေ့သော် ကျိုးပမ်းမှု ၏ ရလဒ်အဖြစ် ဘုရင်နှင့်တွေ့ဆုံခွင့် ကိုရခဲ့ရှာလေသည်။ ကျွန်မလေးသည် ရလာသည့်အခွင့်အရေးကို လက်လွှတ်မခံဘဲ ဘုရင်ခံကို စလာမ်ဆိုလျှက်

အရေးကြီးသော ကိစ္စရပ်အား လျှို့ဝှက်စွာပြောကြား တင်လျှောက် လိုပါကြောင်းကို အမိအရပြောဆိုခဲ့လေသည်။ စိတ်ကောင်းရှိသော ဘုရင်ခံသစ်ကလည်း အခန်းတွင်းမှ လူများကို အပြင်သို့ ခေတ္တထွက် ပေးကြရန်မိန့်ပြီး ပြောလိုရာ ပြောရန်အခွင့်ပေးလေသည်။

သခင်၏ တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်လိုသော ကျွန်မလေး က ရဲရင့်စွာ လျှောက်တင်လေသည်မှာ- "ဘုရင်ခံကြီးရှင်-ဘုရင်ခံကြီးက တော့ စည်းစိမ်ချမ်းသာများကုံလုံကြွယ်ဝပြီး ပြည့်စုံစွာ စည်းစိမ်များ စံစားနေရသော အချိန်တွင် ဘုရင်ခံကြီးကို တစ်ချိန်က ကယ်ဆယ် ခဲ့ဘူးတဲ့ - ''ကယ်တင်ရှင်'' တစ်ဦးဟာ အကျဉ်းကျခံနေရပြီး စိတ်ဒုက္ခ/လူဒုက္ခအကြီးအကျယ်ခံစားနေရရှာတယ်ဆိုရင် လျော်ကန် သင့်မြတ်တော်မူပါ၏လော? တရားမျှတပါ၏လော?" ဟု ရဲ့ရင့်စွာပင် လျှောက်မေးခဲ့ပါလေ၏။

"ကယ်တင်ရှင်" ဟူသော အသံကို ကြားရသည်နှင့် ဘုရင်ခံ ခိုဇိုင်မဟ်သည် အံ့ဩခြင်းကြီးစွာဖြင့် ထိုင်ရာမှပင် ရုတ်တရက်ထ၍ ရပ်လိုက်မိတော့သည်။ ထို့နောက် ကျွန်မလေးအား "မိန်းကလေး-သင်မ ဘာကိုပြောလိုက်တာလဲ။ ငါ့ရဲ့ကယ်တင်ရှင်က ဘာ့ကြောင့် အကျဉ်းကျခံ နေရမှာလဲ?သူဘယ်မှာလဲ?သူဘယ်သူလဲ?ငါ့ကို ကုန်စင်အောင်လျှောက် တင်စမ်းပါ" ဟုသိလိုစိတ်ပြင်းပြစွာဖြင့် မိန့်လိုက်လေ သည်။ထိုအခါကျမှ ကျွန်မလေး သည်နန်းကျဘုရင် အစ်က်ရေ့မဟ်၏ အဖြစ်ဆိုးများ အခြေအနေဆိုးများကို မချွင်းမချန်စေ့စုံစွာ ပြောပြလျှောက် တင်ချက်များကို ကြားနာရင်း တစ်ချိန်က ညဥ့်အချိန်မတော်

သန်းခေါင်ကျော်တွင် "ကယ်တင်ရှင်" ပေးလာခဲ့သော သူလက်ခံရရှိခဲ့သည့် ရွှေဒင်္ဂါး အပြား(၄၀၀၀) သည် ဘဏ္ဍာတော်မှ ပျောက်ဆုံးနေသည့် ရွှေဒင်္ဂါး အပြား (၄၀၀၀) ဖြစ်ကြောင်းကို ဆက်စပ်၍ တွေးတောမိရကာ ရင်မချိစွာ ခံစားနာကျင်လာခဲ့ရလေသည်။ ဘုရင့်ဘဏ္ဍာတော်အလွဲသုံးစား မှုဖြင့် အကျဉ်းကျပြစ်ဒဏ်ခံနေရသော နန်းကျဘုရင်၏ ရွှေဒင်္ဂါးအပြား (၄၀၀၀) သုံးစွဲမှုသည် အမှန်တကယ်မှာ ခိုဖိုင်မယ်၏ ဘဝအား အဖတ်ဆယ် ကယ်တင်လိုက်ခြင်းဖြစ်ကြောင်း ကောင်းစွာနားလည် သဘောပေါက် ခဲ့ရလေပြီဖြစ်၏။

ခိုဖိုင်မာ့အတွက် အစ်က်ရေ့မယ်၏ အနစ်နာခံမှုစတေးမှုများဖြစ်ကြောင်း ဘုရင်ခံသစ်မှနားလည် သိမြင်ခဲ့ရလေသည်။

ဤတွင်မြန်မာရာဇဝင်မှ အနန္တသူရိယ အမတ်ကြီး၏ ကျော်စောလှသောလင်္ကာအားသတိရမိပါ၏။

"သူတည်းတစ်ယောက် ကောင်းဘို့ရောက်မူ သူတစ်ယောက်မှ ပျက်လင့်ကာသာ ဓမ္မတာ တည်း ရွှေအိမ်နန်းနှင့် ကြငှာန်းလည်းခံ မတ်ပေါင်းရံလျှက် ပျော်စံရိပ်ငြိမ် စီးစိမ်မကွာ နေရပါလည်း သမုဒ္ဒရာ ရေမျက်နှာထက် ခဏတက်သည့် ရေပွက်ပမာ တစ်သက်လျာတည်း "

ဖနာ မမြဲသော သင်္ခါရလောကကို ကွက်ကွက်ကွင်းကွင်း မြင်သာအောင်စပ်ဆိုထားသော သံဝေဂရယူဘွယ်ရာ လင်္ကာတစ်ပုဒ်ပင်ဖြစ်ပါ၏။

ဘုရင်ခံသစ်ခိုဖိုင်မာသည် အကြောင်းစုံအားသိရလျှင် သိရချင်းပင် မိမိ၏နောက်တော်ပါဝန်ကြီးအချို့နှင့် အစ်က်ရေ့မယ် ရှိရာအကျဉ်း

ထောင်သို့ လျှင်မြန်စွာ ပင်သွားရောက်ခဲ့လေသည်။ အကျဉ်းထောင်တွင်း၌လဲပြို့ချိနဲ့ အသက်ရဲ့ရဲ့ သာကျန်ရှိစွာ ဒုက္ခများကို ခံစားနေရရှာလေသော ကျေးဇူးရှင် အစ်ရေ့မဟ်၏ ရှေ့မောက်တွင် ခိုဖိုင်မာ တစ်ယောက် ဒူးထောက်ထိုင်ချလိုက်ရင် " အို-အဆွေ......
ကျွန်ုပ်ကို ခွင့်လွတ်ပါ။ ကျွန်ုပ်ဘာမှ မသိနားမလည်စွာနဲ့ ကျွန်ုပ်ရဲ့ "ကယ်တင်ရှင်" ကို ဒီငရဲခန်းထဲမှာ ပစ်ထားခဲ့မိတယ်။" ဟု အနူးအညွတ်တောင်းပန်နေမိပေ၏။

နာမကျန်းဖြစ်နေသည့် အစ်က်ရေ့မာသည်လည်း ရုတ်တရက်ဆိုသော်ဘာမှ နားမလည်နိုင်ဘဲ စိတ်ရှုပ်ထွေးလျှက်နှင့် "အသင်ဘာတွေလာပြီး ပြောနေတာလဲ "ကယ်တင်ရှင်" ဆိုတာ ရောဘယ်သူလဲ အဓိပ္ပါယ် မရှိတဲ့စကားတွေလျှောက်ပြောမနေပါနဲ့ " ဟု ပြန်ပြောမိ၏။

ထိုစဉ်အစေခံကျွန်မလေးရောက်ရှိလာပြီး သူမ၏ ကျိုးပန်းဆောင်ရွက်ခဲ့သမျှအား သူမ၏ သခင်ကို ပြည့်စုံစွာ လျှောက်တင်ခဲ့လေသည်။ ထိုအခါကျမှ အစ်က်ရေ့မဟ် သည် ခိုဖိုင်မဟ် ကိုချစ်ခင်စွာ သိုင်းဖက်လိုက်ပြီး "အသင့်ကိုဘယ်နည်းနဲ့မှ အပြစ်မဆိုထိုက်ပါဘူး- မိတ်ဆွေကြီးရာ ဒါဟာဆန်းကျယ်လှသော ကံတရားပါပဲဟု ခင်မင်ရင်းနှီးစွာ ပြောဆိုပြီးလျှင်လျှို့ဝှက်ဆန်းကြယ်လှသောမိတ်ဆွေ (၂) ဦးတို့သည် တစ်ဦးနှင့်တစ်ဦးချစ်ခင်စွာဖက်တွဲလျှက် နန်းတော်ဘက်ဆီသို့ ကြွမြန်းသွား ခဲ့ကြလေသည်။ နန်းတော်ပေါ်သို့ ရောက်လေလျှင် နန်းတွင်းသမားတော်အကျော်အမော်များ နှင့်ပြုစုကုသပေး၍ လိုလေသေး

မရှိအောင် ပြုစုစောင့်ရှောက်ခဲ့လေသည်။ ကျန်းမာရေးကောင်းလာသော အခါ ခိုဖိုင်မဟ်သည် မိတ်ဆွေကြီး အစ်က်ရေ့မဟ် ကို ခေါ်ဆောင်လျှက် ဒမတ်စ်ကဒ် ပြည်ရှင် ဘုရင်ကြီး ဆိုလိုင်မန်ဘင်အဗ္ဗဒွလ်မလစ်က်၏ ထံ သွားရောက်ခဲ့ကြလေသည်။

ဂျဇီရာဘုရင်ခံကြွရောက်လာတော်မူကြောင်း ကိုကြားသိရလေ သော် ရုတ်တရက်အကြောင်းမကြားဘဲ ရောက်လာခြင်းကြောင့် ဂျဇီရဟ် ပြည်နယ်တွင် ပြဿနာတစ်ခုခုအခက်အခဲတစ်ခုခုနှင့် များကြုံကြိုက် နေပြီလားဟုဘုရင်ကြီးမှာ တွေးတောပူပင်မိသည်။ ထို့ကြောင့် ခိုဖိုင်မဟ် နှင့်တွေ့ဆုံသောအခါ "ဂျဇီရဟ်"မှာ အခက်အခဲတစ်စုံတစ်ရာ မဖြစ်ဘူးလို့ မျှော်လင့်မိပါတယ်။" ဟုပြောမိလေသည်။

ခိုဖိုင်မဟ်က ဂျဇီရဟ်တွင် ပြဿနာအခက်အခဲဘာမျှ မရှိပါ ကြောင်း အားလုံးအဆင်ပြေချောမွေ့ပါ ကြောင်းကို ဘုရင်ကြီး စိတ်အေးစေရန် လျှောက်တင်ပြီး မမျှော်လင့်ဘဲ ရောက်ရှိလာခဲ့ရသော အကြောင်းရင်းကို တင်ပြလျှောက်ထားခဲ့သည်။ "ဘုရင်ကြီးအနေနှင့် တစ်ချိန်က ပြောပြခဲ့ဘူးသည့် ကျွန်ုပ်၏ကျေးဇူးရှင် "ကယ်တင်ရှင်" ကို တွေ့ချင်မြင်ချင်ပေလိမ့်မည်။" စကားစတင်ကာ ရှိသေးဘုရင်ကြီးက "သူ့အကြောင်းကို သတင်းရလာခဲ့ပြီလား -" ဟု အားတက်သရော မေးမြန်းခဲ့လေသည်။ မှန်ပေသည် အသင်မင်းကြီး သတင်းရရုံတင်မက သူ့အား ဤမြို့တော်ထိတိုင်ခေါ်ဆောင်လာခဲ့ပါပြီ ဟုလျှောက်သော် "ယခုချက်ချင်း ငါ၏ ရှေ့တော်သို့ တင်သွင်းပါလော့ ကျွန်ုပ်သည် "သူ" အား မှတ်သားလောက်သည့်လူအဘိုးတန် တစ်ယောက်အနေနှင့်

အလွန်ပင် တွေ့ဆုံချင်ပါသည်။” ဟုမိန့်လေ၏။

ခိုဇိုင်မာအပြင်သို့ပြန်ထွက်သွားပြီး မိနစ်အနည်းငယ်အကြာတွင် နန်းကျဘုရင်ခံ ဟောင်းအစ်က်ရေ့မဟ်နှင့် အတူပြန်လည်ရောက်ရှိလာခဲ့လေသည်။ ဘုရင်ကြီးသည် သူအလွန်တွေ့ချင်မြင်ချင်လေးစားရလေ သော ‘‘ကယ်တင်ရှင်’’ မှာ သူ၏ ဘုရင်ခံဟောင်းဖြစ်နေသည်ကို အံ့သြခြင်းကြီးစွာနှင့် သိမြင်ခဲ့ရလေသည်။ ဘုရင်ကြီးက အကြောင်းစုံကို မေးမြန်းသည်။ အစ်က်ရေ့မဟ်ကအကြောင်းစုံကိုစေ့စုံစွာရှင်းလင်းပြောပြ လျှောက်ထားခဲ့သည်။

အကြောင်းစုံသိရလေပြီးသောအခါတွင် ဘုရင်ကြီးသည် အစ်က်ရေ့မဟ်ကို အမြတ်တနိုးပွေ့ဖက်ခေါ် ယူလျှက် မိမိ၏ အပါးတွင် ထိုင်စေပြီး “အသင်ကဲ့သို့အရာရှိမျိုးအတွက် ငါအလွန်ပဲဂုဏ်ယူမိပါတယ်။ အသင်ယူခဲ့တဲ့ဘဏ္ဍာငွေဟာ အလွန်မြင့်မြတ်တဲ့နေရာမှာ အသုံးချခဲ့တာ ဖြစ်ပါတယ်။

ဟာဒီးဆ်တော်မှာ(၃)ဦးသော သူများကို သနားရန် မိန့်ထားပါတယ်။

(၁) ပညာရှင် ပညာမဲ့သွားသောအခါ။

(၂) အာဏာရှင် အာဏာမဲ့သွားသောအခါ။

(၃) ချမ်းသာကြွယ်ဝသောသူ ဆင်းရဲသွားသောအခါ ထိုသူများကို သနားကြရန် မိန့်တော်မူထားလေသည်။ (၁)

(١) ”ارحموا من الناس ثلاثة عزيز قوم ذل وغني قوم افتقر وعالما بين جهال “ العسكري في الأمثال والسليماني في الضعفاء من حديث زيد بن أبي الزرقاء عن عيسى بن طهمان عن أنس به مرفوعا بهذا “ المقاصد الحسنة في بيان كثير من الأحاديث المشتهرة على الألسنة للإمام الشيخ شمس الدين محمد بن عبد الرحمن السخاوي ج: ١، ص: ١٠١.

ဘုရင်ကြီးဟာ ဝမ်းမြောက်စွာနဲ့ အစ်ကဲရေ့မဟ်ကို ဂုဏ်ပြုသော အနေနဲ့ ဂုဏ်ထူးဆောင်ဝတ်ရုံကြီးကို ဆင်မြန်းပေးကာ ဆုလာဘ်တော် များစွာကိုလည်းပေးအပ်တော်မူခဲ့လေသည်။ ထို့နောက်ခိုဗိုင်မဟ်အား "အို……ခိုဗိုင်မဟ် သူ့ကိုခင်ဗျားထံမှာ အပ်ပါတယ်" ဟု ပြောလေရာ ခိုဗိုင်မာဟ်က "အို…… ဘုရင်မင်းမြတ်ကြီးခင်ဗျား ကျွန်တော်မျိုးကို နုတ်ထွက်ခွင့်ပြုပေးပြီး "သူ့" အား ဘုရင်ခံအဖြစ်ပြန်လည်ခန့်အပ်တော် မူပါ။" ဟု ပန်ကြားခဲ့လေသည်။ ဘုရင်ကြီးကလည်း ခိုဗိုင်မဟ်၏ တောင်းဆိုမှုအား လက်ခံ၍ အစ်ကဲရေ့မဟ်ကို ဂျဇီရာတွင် မူလဘုရင်ခံရာ ထူးအား ပြန်လည်ပေးအပ်ခဲ့လေသည်။

ကျေးဇူးသိတတ်စိတ်ထား မြင့်မြတ်လှသော ခိုဗိုင်မဟ် ၏ အပြု အမူကိုလည်း ဘုရင်ကြီးမှာ သဘောတော်ကျလှသဖြင့် ရွှေဒင်္ဂါး (၁၀၀၀၀- တစ်သောင်း) ကိုဆုလာဘ်တော်အဖြစ်ပေးအပ်ကာ "အာမေးနီးယား" ပြည်နယ်၏ ဘုရင်ခံ အဖြစ် ခန့်အပ်ချီးမြှင့်လိုက်လေသည်။

ဤတွင် ရာဇဝင်သမိုင်းကြောင်းတစ်ခု၏ အထုပ္ပတ္တိအကျဉ်းချုပ် သည် ပြီးဆုံးသွားပေပြီ။ ဤသမိုင်းကြောင်းမှ အလှတရားများကို စာရေးသူနှင့် စာရှုသူတို့ အတူတကွ ရှာဖွေကြည့်ကြပါစို့။

### အစ်ကဲရေ့မဟ် ၏ အလှ

ဆွေးနွေးပွဲတစ်ခုမှ အမှတ်မထင်ကြားသိလိုက်ရသော ခိုဗိုင်မဟ် ၏ ဆင်းရဲမွဲတေသည့်သတင်းစကားများ၏ အပေါ်မှာ ကိုယ်ချင်းစာနာ၍ မေတ္တာတရား ပေါ်ပေါက်လာခဲ့ရပေသည်။ "မေတ္တာ" ဟူသည်မှာ "မျှတမှု တရား" ကို ခေါ်ဆိုခြင်းပင်ဖြစ်လေသည်။ ထိုမျှတမှုတရား မေတ္တာသည်

ကိုယ်ချင်းစာနာတတ်မှု ပေါ်ပေါက်လာတတ်ပေသည်။

(အဘူဟိုရိုင်ရဟ် رضي الله عنه သခင်ဆင့်ပြန်သော ဟဒီးဆ်တော်တစ်ခုတွင် "မုအ်မင်န် သည် မေတ္တာတရား၏ စုဝေးရာ ဌာနဖြစ်၏။ အခြားသူအား မေတ္တာမထားသူ အခြားသူတို့၏ မေတ္တာကိုလည်း မရသူတို့၏ ထံတွင် ကောင်းခြင်းဟူသည် မရှိပေ။) ဟု မိန့်ထားသည်နှင့်အညီ အစ်က်ရေ့မဟ် သည် ခိုဗိုင်မဟ် ၏ အပေါ်တွင် မေတ္တာထား၍သနားဂရုဏာပွားကာ အတုန့်အလှည့်ကို မမျှော်ကိုးဘဲ စေတနာ ဖြူစင်စွာဖြင့် ဖုံးအုပ်၍ကျေးဇူးပြုခဲ့ပြီး ထိုကျေးဇူးတရားကိုလည်း ဖုံးအုပ်၍ထားခဲ့လေသည်။ ညာလက်မှ လှူသည်ကို ကိုယ့်ဘယ်လက်မှ ပင်မသိစေနှင့် ဟူသော မိန့်ခွန်းတော်နှင့်အညီ လိုက်နာခဲ့လေသည်။ (၁) ထို့ကြောင့် အစ်ရေ့မဟ်၏ ကိုယ်ချင်းစာနာတတ်မှု မေတ္တာ (မျှတမှု) တရားထားတတ်မှု ဂရုဏာတရားပွားတတ်မှု စေတနာဖြူစင်မှု ဖုံးအုပ်၍ ကျေးဇူးပြုမှု ဟူဟူသမျှ အားလုံးသည် အစ်က်ရေ့မဟ် ၏အလှတရား

(١) قلت : الحديث أخرجه الشيخان في صحيحيهما(البخاري في الزكوة ، باب من جلس في المسجد ينتظر الصلوة وفضل المساجد)،ومسلم في (صحيحه :باب فضل إخفاء الصدقة :١٣٠١) والترمذي في (سننه :باب الحب في الله :٢٣٩١) ،والنسائي في (سننه :باب الإمام العادل :٥٣٨٠؛ترقيم أبي غدة ) والحميدي في (جمعه : ٢٢٨٥) والبيهقي في( سننه الكبرى :٢٠٦٥٥/١٧٠٩٠/٨٠٨٨/٨١٥٦/)، وفؤاد عبد الباقي في (اللؤلؤ والمرجان فيما اتقف عليه الشيخان :ج : ١ـ ص : ٢٩٢) والإمام مالك في (مؤطئه :١٧٠٩باب ماجاء في المتحابين في الله) وغيرهم من أصحاب السنن ، والصحاح والمسانيد ، والشعب ، والجوامع تركتها خشيه الإطالة .

စွမ်းရည် များပင်ဖြစ်လေသည်။

## ခိုဇိုင်မဟ်၏ အလှ

မိမိဘဝသောကပင်လယ်ဝေနေသော အချိန်ကာလတွင် မိမိ၏ ဘဝအား သာယာစိုပြေသော အခြေအနေထိတိုင် ပြောင်းလဲစေခဲ့သော သူတစ်ပါး၏ ကျေးဇူးပြုမှုအား ခိုဇိုင်မဟ်သည် ဘယ်သောအခါမှ ပင်မမေ့ခဲ့နိုင်ရှာပေ။ ဟဒီးဆ်တော်တစ်ရပ်တွင် (အချင်းချင်း၏ ကျေးဇူးတရားကို မသိတတ်သောသူမှာ အရှင်မြတ်၏ ကျေးဇူးတရားကို လည်း သိတတ်မည်မဟုတ်ပေ။ )(၁)

ဟူသော အလိုသဘော ထားအရ ခိုဇိုင်မဟ်သည် မိမိအားဖုံးအုပ်၍ ကျေးဇူးပြုသွားခဲ့သော ကျေးဇူးရှင်အား "ကယ်တင်ရှင်" ဟူသော အမည်နာမနှင့် ဘယ်သောအခါမှ မေ့မရနိုင်ခဲ့ပေ။ အမြဲအောက်မေ့ သတိရလျှက်ရှိနေခဲ့၏။ ကျေးဇူးရှင်မည်သူဖြစ်ကြောင်းကို သိရလေသည်

(١) قلت : هو حديث أبي هريرة قال : قال رسول الله ﷺ : " من لايشكرالناس لايشكرالله" . أخرجه الإمام الترمذي (في سننه باب ماجاء في الشكر لمن أحسن إليك : ١٩٥٤) وقال هذا حديث حسن صحيح ، وقال الشيخ الألباني : "صحيح".والطبراني في (المعجم الأوسط:٣٥٨٢) و (المعجم الكبير : ٢٥٠١) ، و الطبري في (تهذيب الآثار وتفصيل الثابت عن رسول الله الله من الأخبار ــ بطرق متعددة وألفاظ مختلفة ـ ١٢١/١٢٠/١١٩/١١٨/١١٧/١١٦/١١٥/١١٤) وابن الأثير في (جامع الأصول في أحاديث الرسول :١٠٣٣) وقال :" ((لايشكرالله من لايشكر الناس )) وفي رواية عنه ـ أي أبي هريرة ـ قال : ((من لم يشكر الناس لم يشكرالله)) .أخرج الأولى أبوداود ، والثانية الترمذي".وغير ذلك ذكر هذا الحديث في (كنزالعمال :٦٤٤٣) و (شعب الإيمان للبيهقي : ٩١١٩) و ( مسند أبي يعلى :١١٢٢) و ( جمع الجوامع للسيوطي : ٢٥٩٢)

နှင့် ကျေးဇူးကိုချက်ခြင်း တုံ့ပြန်ခဲ့၏။ ဆေးဝါးကုသပြုစုခဲ့ပြီး ဘုရင်ကြီးထံခေါ်ဆောင်သွားခဲ့၏။ အထင်လွဲခံရပြီး ရာထူးမှ ဖြုတ်ချခြင်း ခံရမှု အမှန်တရားများကို တင်ပြ လျှောက်ထားခဲ့လေသည်။ အစ်ကိုရေမဟ်နှင့် ပတ်သက်၍ဘုရင်ကြီးက မိမိအပေါ်လွဲအပ်လိုက်ခြင်းကို မိမိရရှိထားသည့် ဘုရင်ခံရာထူးကို ကျေးဇူးရှင် အတွက် အနစ်နာခံ စွန့်လွှတ်ပြီးလျှင် မိမိ၏ကျေးဇူးရှင်အား ဘုရင်ခံအဖြစ် ပြန်လည်ခန့်အပ်ပါရန် ဘုရင်ကြီးထံ ပန်ကြားလျှောက်ထားခဲ့လေသည်။ ဤသည်ခိုဇိုင်မဟ်၏ စိတ်ထားမြင့်မြတ်မှု ဖြစ်ပေသည်။ ထို၏ အစားကို ချက်ခြင်းလက်ငင်းပြန်လည်ခံစားရပေသည်။

ထို့ကြောင့်ခိုဇိုင်မဟ်၏ ကျေးဇူးတရားကို မမေ့မှု ကျေးဇူးသိတတ်မှု ကျေးဇူးကို တုံ့ပြန်ပြီး ဘုရင်ခံ ရာထူးကိုပင် စွန့်လွှတ်စတေး၍ ကျေးဇူးရှင်ကိုကျေးဇူးပေးဆပ်မှု စိတ်ထားမြင့်မြတ်မှုတို့သည် ခိုဇိုင်မဟ်၏ အလှူတရားစွမ်းရည်များပင် ဖြစ်လေသည်။

## အစ်ကိုရေမဟ်၏ ကြင်ယာမိဖုရား၏အလှူ

မိဖုရားသည်ဇနီးကြင်ယာကောင်းများ၏ သဘော သဘာဝအရ မိမိ၏ ခင်ပွန်းလင်ယောက်ျားအပေါ်တွင် စိုးရိမ်သောကစိတ်များ အပြည့်အဝထားနိုင်ခဲ့လေသည်။ အိပ်ယာထက်မှ ရုတ်တရက်ပျောက်သွားခဲ့သည့် ခင်ပွန်းအတွက် အန္တရာယ်အသွယ်သွယ်အား စဉ်းစားတွေးတော၍ ပူပန်မှုစိတ် အထွဋ်အထိပ်သို့ရောက်ခဲ့ရ၏။ ခင်ပွန်းပြန်ရောက်လာသော အခါ မိမိ၏စိုးရိမ်ပူပန်မှုများကိုတင်ပြပြီး ခင်ပွန်း၏ အဖြစ်မှန်ကို အမိအရ မေးထားနိုင်ခဲ့၏။ ထိုအဖြစ်မှန်ကို အခြေခံ၍ တစ်ချိန်တွင်ခင်ပွန်းဖြစ်သူ၏

အပူဒုက္ခဆင်ရဲမှုဗျာပါဒများကို ကူညီ၍ ဖြေရှင်းပေးနိုင်ခဲ့လေသည်။ အကြံဉာဏ်ကောင်းများဖြင့် မိမိ၏ကျွန်မလေးကို ဘုရင်ခံသစ်ခိုဗိုင်မဟ် ၏ ထံစေလွှတ်ပြီး ခင်ပွန်း၏ ဒုက္ခများကိုသိမြင်စေခဲ့၏။ မိဖုရား၏ အကြံဉာဏ်ကောင်းများကြောင့်ဇတ်သိမ်ခန်းတွင် ခင်ပွန်းလင်မှာ ဘုရင်ခံပြန်ဖြစ်ခဲ့ရလေသည်။

ထို့ကြောင့် ခင်ပွန်းလင်အပေါ်စေတနာထား၍စိုးရိမ်ပူပန်ခဲ့မှုများ ခင်ပွန်း၏ အပူဒုက္ခကို မိမိ၏အပူဒုက္ခကဲ့သို့မျှဝေခံစားခဲ့မှုများ ခင်ပွန်းလင်ကို အကျိုးပြုနိုင်ခဲ့သည့် ကောင်းမြတ်သော ကြင်ယာဇနီးကောင်းဖြစ်ခဲ့ရမှုများသည် အစ်ကေ့ရေ့မဟ်၏ ကြင်ယာတော် မိဖုရား၏ အလှတရားစွမ်းရည်များပင်ဖြစ်လေသည်။

## ကျွန်မလေး၏ အလှ

မိမိ၏ အခြေအနေအဆင့်အတန်းနှင့် ဘုရင်ခံထံသို့ သွားရောက်တွေ့ဆုံရမည့်အရေးသည် စဉ်းစားတွေးတော၍မရနိုင်အောင်ပင်ကြီးမားလှသော ကိစ္စရပ်ကြီးတစ်ခုပင်ဖြစ်ပါ၏။ သို့ရာတွင် မိမိ၏ သခင်(၂)ပါး တို့အပေါ်တာဝန်ကျေပွန်လိုမှု ကျေးဇူးပေးဆပ်လိုမှု စသည့်တို့ကကျွန်မလေးအားရဲရင့်သတ္တိရှိမှုကိုဖြစ်ပေါ် လာစေခဲ့လေသည်။ ထို့ကြောင့်ပင် ကျွန်မလေးသည် ဘုရင်ခံ နှင့် တွေ့ဆုံရန် အတွက်ကို အမျိုးမျိုးကျိုးပန်းဆောင်ရွက်ခဲ့ရရှာ၏။ ဇွဲကို အရင်းခံ၍ ဘုရင်နှင့်ဆက်သွယ်မှုရရန် ကျိုးစားခဲ့ရ၏။ ဆက်သွယ်မှုရသည်နှင့် သခင်မ မိဖုရား၏ အမှာစကားအတိုင်းဘုရင်ခံနှင့် နှစ်ကိုယ်ကြား လျှို့ဝှက်စကား ပြောဆိုနိုင်ရန် ရဲရင့်စွာတောင်းဆိုခဲ့ရသည်။

ပြောဆိုခွင့်ရသည်နှင့် ပြောလိုသည့်စကားရပ်များကို လိုရင်းတိုရှင်းအကွက်ကျကျသတ္တိ ရှိစွာပြောဆိုလျှောက်တင်နိုင်ခဲ့လေသည်။ ကျွန်မလေး၏တင်ပြ လျှောက်ထားမှုများကြောင့် လျှို့ဝှက်ဆန်းကြယ်စွာ ရှုပ်ထွေးနေခဲ့လျှက် ရှိသောဇာတ်ကြောင်းမှာ ပီပြင်ထင်ရှားရှင်းလင်း၍ သွားခဲ့ရလေသည်။ မိမိ၏သခင် (၂)ပါးမှာလည်း အကျဉ်းကျခြင်းမှ လွတ်မြောက်ပြီးနောက် ဘုရင်ခံ အဖြစ်ပြန်လည်ရောက်ရှိသွားခဲ့ရသည်။ ဤသည်ကျွန်မလေး၏ သခင်တို့အား ကျေးဇူးပေးဆပ်မှုဖြစ်လေသည်။

ထို့ကြောင့်ကျွန်မလေး၏ မိမိ၏ သခင်(၂)ပါး အပေါ်တာဝန်ကျေပွန်မှု ဘုရင်ခံနှင့် တွေ့ဆုံပြောဆိုရန် ရဲရင့်သတ္တိရှိမှု ကျေးဇူးရှင်သခင် (၂) ပါးတို့အား ကျေးဇူးဆပ်ခဲ့မှု များသည်ကားကျွန်မလေး၏ အလှတရားစွမ်းရည်များပင်ဖြစ်ပါလေ၏။

## ဆိုလိုင်မာန်ဗင်န် အဗ္ဗဒွလ်မာလစ်ကံ ဘုရင်ကြီး၏အလှ

ဘုရင်ကြီးသည် ကောင်းကျိုးကိုလိုလားသော စိတ်ဓါတ်ပိုင်ရှင်ဖြစ်၍ကောင်းကျိုးပြုသူကိုလည်း နှစ်သက်ကြည်ဖြူတတ်၏။ အစ်က်ရေ့မဟ် ကိုအထင်အမြင်လွဲပြီး နန်းချကာ ခိုဖိုင်မဟ်အား ဘုရင်ခံရာထူးချီးမြှင့်ခဲ့သော်လည်း တစ်ချိန်တွင် အစ်က်ရေ့မဟ်အား ခိုင်ဖိုင်မဟ်၏ ကယ်တင်ရှင်အဖြစ်နှင့် ပြန်လည်တွေ့ဆုံရသောအခါမှာ (၃)ဦးသောသူအားသနားပါ။ ဆိုသော ဟဒီးဆ်တော်အရ သူဌေးဘဝမှ မွဲပြာကျ၍ ဒုက္ခပင်လယ်ဝေနေခဲ့သည့် ခိုဖိုင်မဟ်အား ကူညီမှုကို သိမြင်လာရသောအခါ ကောင်းကျိုးပြုခဲ့သူအစ်က်ရေ့မဟ် ကိုကြည်ဖြူစွာ ခွင့်လွှတ်၍ ချီးမြှင့်ထိုက်သည်ကို ချီးမြှင့်ခဲ့လေသည်။ အစ်က်ရေ့မဟ်

ယူသုံးခဲ့တဲ့ဘဏ္ဍာငွေဟာအလွန်မြင့်မြတ်တဲ့နေရာမှာ သုံးစွဲခဲ့သည် ဖြစ်ကြောင်းမိန့်ပြီး အစ်ကိုရေ့မယ်ကို ဂုဏ်ထူးဆောင်ဝတ်ရုံကြီးကိုပင် ဆင်မြန်းပေး၍ ဆုလာဘ်များစွာကို ချီးမြှင့်ခဲ့ပေသည်။ ခိုဇိုင်မယ်၏ "ကယ်တင်ရှင်" ကိုခိုဇိုင်မယ် ဘုရင်ခံ၏ လက်ကိုအပ်ပါကြောင်း မိန့်ခဲ့သည် ထိုအပေါ်မှာ ခိုဇိုင်မယ် ကလည်း အစ်ကိုရေ့မယ်ကို ဘုရင်ခံ အဖြစ်ပြန်လည်ခန့်အပ်ပါရန် လွတ်လပ်စွာတောင်း ဆိုတင်ပြနိုင်ခဲ့ လေသည်။ ဘုရင်ကြီးသည်အစ်ကိုရေ့မယ်ကို ဂျဇီရယ်၏ ဘုရင်ခံအဖြစ် ပြန်လည်ခန့်အပ်ခဲ့ပြီး စိတ်ထားလှသည့် ခိုဇိုင်မယ်၏ အပြုအမူကိုလည်း ဘုရင်ကြီးမှာ နှစ်သက်သဘောကျတော်မူပြီး ရွှေဒင်္ဂါး (၁၀၀၀၀- တစ်သောင်းဆိုသော) ဆုလာဘ်နှင့်အတူ အာမေးနီးယား ပြည့်နယ်၏ ဘုရင်ခံအဖြစ်ထပ်မံခန့်အပ်တော်မူခဲ့လေသည်။

ထို့ကြောင့် ဒမတ်စ်ကပ် ပြည့်ရှင်ဘုရင်ကြီး ဆိုလိုင်မန်ဘင် အဗ္ဗဒွလ်မာလစ်က် ၏ကောင်းကျိုးကိုလိုလား၍ကောင်းကျိုးပြုသူကို နှစ်သက်ကြည့်ဖြူမှု ခွင့်လွှတ်ထိုက်သူကို ခွင့်လွှတ်တတ်မှု ချီးမြှင့်ထိုက်သူကို ချီးမြှင့်ပေးကမ်းမှုတို့သည်ကား ဘုရင်ကြီး၏ အလှူတရားစွမ်းရည်များပင် ဖြစ်ပါလေ၏။

ဤသည် သမိုင်းကြောင်းတစ်ခုမှ ပါဝင်ပတ်သက်သူတို့ တစ်ဦး ချင်းစီ၏ အလှူတရားစွမ်းရည်စွမ်းပကားတို့အား စီစစ်သုံးသပ်၍ထုတ်နုတ် တင်ပြလိုက်ရခြင်းဖြစ်ပါသည်။ (အစ်လာမ့်အလင်း စာစောင်)

ယခုလည်းကျွန်ုပ်တို့မှာ မိမိတို့သမိုင်းများကိုရေးကြရန် ဤလောကီသို့ အလှည့်ကျ၍ရောက်ရှိလာခဲ့ပေပြီ။ မိမိတို့၏သမိုင်းကို

မည်သို့ ရေးကြပါမည်နည်း?

မိမိတို့၏ စွမ်းရည်စွမ်းပကား အလှတရား များဖြင့် လူ့လောကကြီးအား ပန်းတို့ပမာ အလှဆင်အကျိုးထင်အောင် ပြုလုပ်ခဲ့ကြမည်လော? မိမိတို့၏ အကျင့်ဆိုးစရိုက်ဆိုးတို့နှင့် လူ့ကမ္ဘာကို အကျည်းတန်အရုပ်ဆိုးစေပြီး ဆူးပမာကျင့်ကြံနေထိုင်ခဲ့မည်လော? အကျိုးပျက်စီး၍ အမှိုက်ပမာ လူ့ကမ္ဘာကို အချီးနှီးဖြစ်စေမည်လော? ဟူသည်ကို ကိုယ်တိုင်သုံးသပ်ကာ ဆုံးဖြတ်ကြပါလေ။ ထိုသုံးသပ် ဆုံးဖြတ်မှုကို အထောက်အကူဖြစ်စေရန်အတွက် အောက်ပါအချက်များကို ဖတ်ရှုလေ့လာပါ။

## အစ္စလာမ့်က ညွှန်ပြထားသော ကိုယ်ချင်းစာတရားများ

☆မိမိအပေါ်တွင် သနားဂရုဏာသက်ရောက်ခြင်းကိုလိုလားပါလျှင် ကိုယ်ကဦးစွာ သက်ရှိသတ္တဝါတိုင်းအပေါ်မှာ သနားပါ။(၁)

☆မိမိအပေါ်တွင် အရှင်၏ (ဂဇဗ်) အမျက်တော်ရှုစိတ်ဆိုးခြင်းအားမလိုလားပါလျှင် ကိုယ်ကဦးစွာ သက်ရှိသတ္တဝါတို့အပေါ်မှာ ဒေါသကို ပါယ်ရှားပါ။

☆မိမိ၏ အပြစ်များနှင့် ပါတ်သက်၍သီးခံမျိုသိပ်ခြင်းကို လိုလားပါလျှင် ကိုယ်ကဦးစွာ သက်ရှိသတ္တဝါတို့အပေါ်မှာ သီးခံပါ။

(١)قلت :هو حديث عبد الله بن عمرو يبلغ به النبي ﷺ : " الراحمون يرحمهم الرحمن ارحموا من في الأرض يرحمكم من في السماء " (أخرجه ابن أبي شيبة في مصنفه ، باب ماذكر في الرحمة من الثواب ، ترقيم الشيخ عوامة :٢٥٨٦٤)

အရှင့်ထံ သီးခံနိုင်စွမ်းအားလည်း တောင်းခံပါ။(၁)

☆ မိမိ၏အပြစ်တို့အား ဖုံးအုပ်ပေးခြင်းကို လိုလားပါလျှင် ကိုယ်ကဦးစွာသက်ရှိသတ္တဝါတို့၏ အပြစ်များကို ဖုံးအုပ်ပေးပါ။(၂)

☆မိမိ၏ အပြစ်များနှင့် ပတ်သက်၍ ခွင့်လွှတ်ခြင်းအား လိုလားပါလျှင် ကိုယ်ကဦးစွာသက်ရှိသတ္တဝါတို့၏ အပြစ်များကို ခွင့်လွှတ်ပါ။

☆ မိမိ၏ အပေါ်တွင် ပေးကမ်းချီးမြှင့်ခြင်းကို လိုလားပါလျှင် ကိုယ်ကဦးစွာ သက်ရှိသတ္တဝါတို့အပေါ်မှာ ပေးကမ်းပါ။

☆ မိမိအပေါ်ရှိအရှင်၏ ကျေးဇူးတော်တို့အား (ရှုက်ရ်) ပြုနိုင်မှုတွင် ပြည့်စုံခြင်းအားလိုလားပါလျှင် ကိုယ်က ဦးစွာသက်ရှိ

(١) قلت وفي ذلك قال رسول الله ﷺ : (( وإنه من يستعفف يعفه الله، ومن يستغن يغنه الله ، ومن يتصبر يصبره الله) ) أخرجه السيوطي في (جامع الأحاديث : رقم: ٢٠٩٠٤) وفيه قال : " أخرجه البخاري (٢/٥٣٤ ـ رقم: ١٤٠٠) ومسلم (٢/ ٧٢٩ ـ ر: ١٠٥٣) وأبوداود (٢/١٢١ـ ر: ١٦٤٤) والترمذي (٤/٣٧٣ـ ر:٢٠٢٤) وقال : حسن صحيح . والنسائي (٥/٩٥ ـ ر: ٢٥٨٨) وابن حبان ( ٨/١٩٣ ـ ر: ٣٤٠٠) ومالك (٢/٩٩٧ـ ر: ١٨١٢) وأحمد (٣/٩٣ ـ ر: ١١٩٠٨) والدارمي (٤٧٤ / ١ـ ر: ١٦٤٦)

(٢)قلت : وفي ذلك روي عن أبي هريرة قال : قال النبي ﷺ : ((من ستر مسلما ستره الله في الدنيا والآخرة )) أخرجه ابن ماجة في (سننه ، باب الستر على المؤمن ودفع الحدود بالشبهات ـ ر: ٢٥٤٤) و أخرجه السيوطي في (جامع الأحاديث ـ ر: ٢٢٣٨٥/٢٢٣٨٦) وعلي المتقي في (كنز العمال ـ ر: ٦٣٨٩/٦٣٩٠/٦٣٩٢) وابن عبد الرزاق في (مصنفه ـ باب ستر المسلم ، ر:١٨٩٣٦) والبيهقي في (شعبه ، باب في الستر على أصحاب القروف، ر: ٩٦٥٠ /١١١٥٠)

သတ္တဝါများ၏ ကျေးဇူးတရားကို သိတတ်ပါ။

☆မိမိအပေါ်သို့ ဘေးဘလာဒုက္ခများကျရောက်မည်ကို မလိုလားပါလျှင်ကိုယ်ကဦးစွာ မည်သူ့ကိုမှ ဒုက္ခမပေးပါနှင့်။

☆မိမိအတွက် ဂျန္နသ် (သုခဘုံ) အားလိုလားပါလျှင် ကိုယ်ကဦးစွာ လူသားတိုင်းဂျန္နသ်ရရန်သောက ထားပါ။

☆ မိမိအတွက် ဂျဟန္နမ် (ငရဲဘုံ) မှလွတ်ကင်းရန်လိုလားပါလျှင် ကိုယ်ကဦးစွာလူသားတိုင်း ဂျဟန္နမ်မှ လွတ်မြောက်လွဲဖယ်ရန်သောက ထားပါ။

☆မိမိ၏အပေါ်တွင် အရှင်မြတ်၏ အကူအညီတော်ကို လိုလားပါလျှင် ကိုယ်ကဦးစွာ (ဒီးန်)သာသနာတော်ကို ကူညီပါ။ (၁)

☆မိမိ၏ အပေါ်မှာ အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုအား လိုလားပါလျှင် ကိုယ်ကဦးစွာ (အစ်ခ်လားစ်) နှင့် အမိန့်နာခံပြီး လူသားတို့ကို အရှင်နှင့်ဆက်သွယ်ပေးပါ။

အို …… အီမာန်ရှင် အလ္လာဟ်အရှင်မြတ်၏ အထံတော်မှ တန်ပြန်သက်ရောက် အကျိုးမြောက်စေရန် ကိုယ်ကဦးစွာ ပြုလုပ်ပါ။ ကိုယ်ချင်းစာနာတတ်မှာ မျှတမှုတရား (မေတ္တာတရား) ထားနိုင်ကြပေမည်။ ကိုယ်ချင်းစာတရားမထားနိုင်ကြပါလျှင်ဖြင့် ဤလောကီတွင် ကိုယ်ပြုသမျှခံကြရမည်။ မယုံရင်လုပ်ကြည့်- ငရဲလဲရှိ- ဝဋ်လဲရှိ နေသည်။

**ကိုယ်ပြုသမျှခံရမည်**

တစ်ခါတုံးက တိုင်းပြည်တစ်ပြည်မှာ ဘုရင်တစ်ပါးအုပ်စိုးနေစဉ်

---

(١) قلت : وفي ذلك قال الله تبارك وتعالى :﴿يأيها الذين آمنوا إن تنصروا الله ينصركم ﴾ [محمد : ٧]

ထိုဘုရင်၏ ဉယျာဉ်တွင် ဉယျာဉ်မှူးတစ်ဦးကိုခန့်ထားခဲ့လေသည်။ ထိုဉယျာဉ်မှူးသည် မိမိ၏ လုပ်ငန်းတာဝန်ကို ကျေပွန်သည့်အပြင် နေ့စဉ် ဉယျာဉ်တွင်းမှ အတွေ့အကြုံများကိုလည်း မချွင်းမချန် ဘုရင်မင်းထံခစား လျှောက်ထားတတ်လေသည်။

တစ်နေ့သောအခါ ထိုဉယျာဉ်မှူးသည် ဉယျာဉ်ခြံအတွင်း အလုပ်ဆင်းနေစဉ် မိမိ၏ရှေ့တွင် ငှက်ဖြူလေးတစ်ကောင်ကို ကြောင်နက်တစ်ကောင်က ခုတ်ယူသတ်ဖြတ်လိုက်သည် ကိုတွေ့မြင်လိုက်ရသောအခါ ဘုရင်မင်းထံသွားရောက်ပြီး ဖြစ်ကြောင်းကုန်စင်အား ထုံးစံအတိုင်း အသိပေးလျှောက်ထားခဲ့လေသည်။ ဉယျာဉ်တော်အတွင်း ငှက်ဖြူလေးတစ်ကောင်အား ကြောင်နက်က သတ်ဖြတ်လိုက်ပါကြောင်း လျှောက်ထားလေသောအခါ ဘုရင်ကြီးက ကြောင်နက်အတွက် တစ်နေ့တွင် "သူ့အလှည့်" ရောက်လာပေလိမ့်ဦးမည် ဟုပြန်လည်မိန့်ကြား ခဲ့လေသည်။

ထို့နောက်တစ်နေ့သောအခါတွင် ဉယျာဉ်တော်အတွင်း ဉယျာဉ်မှူး၏ ရှေ့မှောက်မှာပင် ထိုကြောင်နက်ကို ခွေးတစ်ကောင်က ကိုက်ခဲသတ်ဖြတ်ပစ်လိုက်သည် ကို တွေ့မြင်ရပြန်သောအခါ ထုံးစံအတိုင်း ဘုရင်မင်းထံလျှောက်ထားပြန်လေ၏။ ထိုအခါ ဘုရင်က ခွေးအတွက် တစ်နေ့သောအခါ ''သူ့အလှည့်'' ရောက်လာပေလိမ့်မည်။ ဟုမိန့်ကြားခဲ့ပြန် လေ၏။

ထို့နောက်တစ်နေ့တွင် ဉယျာဉ်မှူး၏ ရှေ့မှောက်၌ထိုခွေးအား တွင်းတစ်ခုအတွင်းမှ မြွေတစ်ကောင်ထွက်လာခဲ့ပြီး ကိုက်ပေါက်သတ်

လိုက်သည် ကိုမြင်တွေ့ခဲ့ရလေသည်။ အကြောင်းစုံကို ဘုရင်ထံ လျှောက်လေသော် ဘုရင်က ထိုမြွေသည်လည်း တစ်နေ့တွင် "သူ့အလှည့်" ကျရောက်လာဦးမည် ဖြစ်ကြောင်း မိန့်တော်မူပြန်လေ၏။

ထို့နောက်တွင် တစ်နေ့သောအခါ၌ ဥယျာဉ်မှူးသည်အလုပ် လုပ်ရန်အတွက် မြွေတွင်းအနီးတွင် တာဝန်ကျရာ ဥယျာဉ်မှူးသည် ထိုတွင်း ထဲတွင် မြွေရှိနေကြောင်းသိပြီးဖြစ်သောကြောင့် အထူးသတိထား၍ လုပ်ကိုင်နေခဲ့လေသည်။ သို့ရာတွင် အချိန်ကြာလာသော် ထိုတွင်းထဲမှ မြွေသည်ထွက်လာခဲ့ပေသည်။ အကြောက်တရားနှင့် မြွေကိုသတိ ထားနေခဲ့သော ဥယျာဉ်မှူးသည် မြွေထွက်လာသည်နှင့် လက်၌အသင့်ရှိနေ ခဲ့သော ပေါက်ပြားနှင့် ရိုက်သတ်လိုက်လေတော့၏။ထို့နောက်ဘုရင်မင်း ထံထိုအကြောင်းများကို သံတော်ဦးတင်လေရာ ဘုရင်ကြီးက သင်သည် လည်းတစ်နေ့ဧကန် "အလှည့်"ကျရောက်၍ လာမည်မှာအမှန်ဖြစ် ကြောင်း မိန့်တော်မူခဲ့လေသည်။

ထို့နောက် တစ်နေ့သောအခါတွင် ဘုရင်ကြီးသည် ဥယျာဉ်တော် အတွင်း၌ ကြင်ယာတော် မိဖုရားနှင့်အတူ အပန်းဖြေစံမြန်းမည် ဖြစ်ကြောင်း အပန်းဖြေ စံမြန်းနေစဉ်အတွင်း ဥယျာဉ်တော်ဝင်းတွင် မည်သူတစ်ဦးတစ်ယောက်မှ မရှိစေရ တွေ့ရှိသော် သေဒဏ်အပြစ်ချမှတ် မည်ဖြစ်ကြောင်းကို မောင်းကြေးနင်းခတ်ခဲ့ လေသည်။

ဥယျာဉ်မှူးသည် ဘုရင်မင်းမြတ်စံမြန်းမည့်ရက်မရောက်ခင် ဥယျာဉ်တော်အား အကောင်းဆုံးအလှဆုံးအသာယာဆုံး ဖြစ်စေရန် နေ့မအိပ်၊ ညမအိပ် အပင်ပန်းခံ၍ ဆောင်ရွက်လုပ်ကိုင်ခဲ့လေသည်။

မိမိသခင်ဘုရင်ကျေနပ်နှစ်သက်စေရန်အတွက် စေတနာဗလပွ နှင့် ကျိုးပန်းလုပ်ကိုင်ရှာလေ၏။ လုပ်ငန်းတွင် စိတ်ပါဝင်စားစွာဆောင်ရွက် နေရင်း မှ အချိန်များကုန်မှန်းမသိကုန်သွားကာ ဘုရင်ဝင်ရောက်စံမြန်း တော်မူမည့်အချန်ထိတိုင် အလုပ်၌နစ်မွန်း၍ နေခဲ့ပေ၏။

ဘုရင်နှင့်မိဖုရား စည်တော်ယွန်းပြီး ဥယျာဉ်တော်အတွင်း ဝင်လေ သောအခါတွင်မှ စည်တော်သံကြားပြီး ဥယျာဉ်မှူးခမျာမှာ မိမိ၏လုပ်ငန်း တွင်းမှ လန့်ထိတ်သတိရသွားခဲ့ရလေသည်။ ထိုအခါ ဘုရင်မင်းမြတ် ထုတ်ပြန်ထားသော သေဒဏ်အပြစ်ကို သတိရမိပြီး ဘုရင်နှင့် မိဖုရားဥယျာဉ်တော်အတွင်းရှိ နေစဉ် အလွန်လုံခြုံစွာ ပုံးခိုနေနိုင်ပါက လွတ်မြောက်နိုင်ပေလိမ့်မည်။ ဟုစဉ်းစားကာ အလွန်မြင့်မား၍ အရွက်ကြီး တဖားဖား ကျနေသည့်အပင်အား ရွေးချယ်၍ တက်ရောက်ပုံးအောင်းခဲ့ လေသည်။ ဘုရင်နှင့်မိဖုရား ဤဥယျာဉ်တော်မှ ပြန်လည်ထွက်သွားသည့် အချိန်ထိ ရေအငတ်ခံအစာအငတ်ခံ၍ နေရပေတော့မည်။ ဟု ဆုံးဖြတ် ကာ မိမိ၏ ခန္ဓာကိုယ်အား ကြီးမားဖားလျားကျနေသည့် အရွက်များဖြင့် ဖုံးအုပ်ထားခဲ့လေသည်။

ထိုအချိန်တွင် ဘုရင်နှင့် မိဖုရားတို့မှာ သစ်ပင်ပန်းမာလာ အပေါင်းနှင့် သာယာလှပသော ဥယျာဉ်တော်အတွင်းမှ ရှုခင်းများကို မျက်စိပသာဒ ကြည်နူးစွာ ကြည့်ခံစားကြရင်း ဥယျာဉ်တော်အတွင်းသို့ လှည့်လည်ပတ်ခဲ့ကြလေသည်။ ဤကဲ့သို့ လွတ်လပ်စွာ လှည့်လည် အပန်းဖြေ၍ စိတ်၏ ကြည်နူးမှုများကို ရှာဖွေခဲ့ကြရင်း အနည်းငယ် နွမ်းနယ်လာသောအခါ အနားယူရန်အတွက် အရိပ်ကောင်းသည့်အပင်

အား ရွေးချယ်ခဲ့ကြလေသည်။

ဘုရင်နှင့်မိဖုရား ရွေးချယ်ခဲ့သည့် သစ်ပင်မှာ တိုက်တိုက် ဆိုင်ဆိုင်ပင် ဥယျာဉ်မှူး တက်ရောက်ပုံးနေခဲ့သော သစ်ပင်ဖြစ်၍ နေပေ၏။ ဘုရင်နှင့် မိဖုရား တို့သစ်ပင်အောက် သို့ဝင်ရောက်၍ အနားယူနေကြသောကြောင့် သစ်ပင်ပေါ်ရှိ ဥယျာဉ်မှူးခမျာ ကြောက်ရွံ့ထိတ်လန့်စွာ ဆောက်တည်ရာမရ ဖြစ်ရလေ၏။ အသက်ကိုပင် ပြင်းပြင်းမရှူရဲအောင် ထိတ်လန့်နေခဲ့လေသည်။ အတတ်နိုင်ဆုံးလှုပ်ရှားမှု မရှိအောင် တည်ငြိမ်အောင်ထိန်းသိမ်းနေထိုင်ခဲ့ရလေသည်။ မိမိ၏ အသက်ရှူသံကိုပင် မကြားစေရန် ခါးဝတ်ပုဆိုးစဖြင့် ပါးစပ်နှင့် နှာခေါင်း ကိုပိတ်၍ ထားခဲ့မိလေသည်။

သို့ရာတွင် ကံကြမ္မာဖန်လာသည့် အရေး ကဆွေးဘွယ်ရာဖြစ်ခဲ့ရလေပြီ။ ပါးစပ်နှင့်နှာခေါင်းကိုပုဆိုးစနှင့် ပွယောင်းယောင်း ပိတ်ဆို့ထားလေသော်မှ နှာခေါင်းအတွင်းမှ ယားကျိကျိဖြစ်လာခဲ့ရလေ၏။ မိမိပုံးခိုနေရာအပင်အောက်ဖက်၌ ဘုရင်နှင့်မိဖုရားရှိနေစဉ်အခါန်ကာလမှ နှာခေါင်းတွင်ယားကျိကျိဖြစ်၍ နှာချီချင်စိတ်က တလိပ်လိပ်တက်လာခဲ့ရပေသည်။ ချုပ်တီးလေလေ နှာချီချင်လေ ဆိုသည့်ပြဿနာနှင့်ရင်ဆိုင်ခဲ့ရလေသည်။ နောက်ဆုံးတွင် ဥယျာဉ်မှူးခမျာ မည်သို့မျှ ထိန်းချုပ်ခြင်းငှာမစွမ်းနိုင်တော့ရှာဘဲ နှာချီလိုက်မိလေတော့၏။ နှာချီသံသည်ကား ချုပ်တီးသည့်ကြားကပင် ပွင့်ထွက်လာရသဖြင့် သာမန်ထက်ပင် ကျယ်လောင်ခဲ့လေတော့၏။

ဥယျာဉ်တော်အတွင်း၌ မိမိတို့နှစ်ယောက်ထဲဟုထင်မှတ်ထားပြီး

အေးအေးလူလူ အနားယူအပန်းဖြေလျှက်ရှိသော ဘုရင်နှင့် မိဖုရားတို့မှာ ကျယ်လောင်လှစွာသော နှာချီသံကြီးကြောင့်စိုးရိမ်စိတ်နှင့် ထိတ်ထိတ်ပြာပြာဖြစ်၍သွားရလေသည်။

ဘုရင်သည် အသံထွက်ပေါ်လာရာ အပင်ပေါ်သို့ကြည့်ကာ အပင်ပေါ်ရှိ အကြင်လူသားမြေပေါ်သို့ဆင်းသက်ရန် ရာဇမာန်ထား၍ မင်းအာဏာနှင့် မိန့်ကြားတော်မူခဲ့လေသည်။

ဘုရင့်အမိန့်နှင့် အပင်ပေါ်မှ ဆင်းသက်လာခဲ့လေသောသူမှာ မိမိ၏ ဥယျာဉ်မှူးဖြစ်နေကြောင်းကို ဘုရင်သည် သိမြင်ခဲ့ရသော်လည်း မိမိနှင့် မိဖုရားတို့ (၂) ပါး ရာဇအိန္ဒြေပျက်ယွင်းစွာ ထိတ်ထိတ်ပြာပြာဖြစ်ခဲ့ရခြင်းကြောင့်မူလက သတ်မှတ်ထားသည့် သေဒဏ် အမိန့်ကို ဥယျာဉ်မှူးအပေါ် အတည်ဖြစ်စေခဲ့လေသည်။

ဥယျာဉ်မှူ အတွက်မှာ သံသရာ တစ်ပါတ်လည် လျှက် "သူ့အလည့်" သို့ရောက်လာခဲ့ချေပြီ။ တစ်နေကုန်၍တောင်စွယ်တွင် နေကွယ်ပါက ဥယျာဉ်မှူးမှာ မင်းအာဏာနှင့်အသတ်ခံရပေတော့မည်ဖြစ်လေသည်။

ဥယျာဉ်မှူးက မိမိ၏နောက်ဆုံးဆန္ဒကိုဘုရင်မင်းမြတ်ထံပန်ကြားလိုပါကြောင်းအာဏာသားတို့မှ တဆင့်သိစေခဲ့လေသော် ဘုရင်က နောက်ဆုံး အနေနှင့် တွေ့ခွင့်လျှောက်ထားခွင့်ပေးခဲ့လေ၏။

ထိုအခါ ဥယျာဉ်မှူးသည် ဥယျာဉ်တော်အတွင်း၌ ဖြစ်ပေါ်လာခဲ့ပြီးသော ငှက်ဖြူလေးမှအစ မြွေသေဆုံးခဲ့ရသည့် ဇာတ်လမ်းအဆုံးတိုင် ပြန်လည်၍သတိပေးလျှောက်တင်ခဲ့ပြီး ဘုရင်ကြီး၏ "သူ့အလှည့်"

ဟူသော စကားရပ်ကို တင်ပြကာ ယခု ကျွန်ုပ်၏အလှည့်ပြီးပါလျှင် ဘုရင်ကြီး အလှည့်ဖြစ်ရှိသွားမည်ကို စိုးရိမ်မိပါကြောင်းကို အရဲစွန့်ကာ လျှောက်ထား ခဲ့လေ၏။

ဘုရင်ကြီးသည် မိမိပြောဆိုမိန့်ကြားခဲ့သည့်အတိုင်း "သူ့အလှည့်" သံသရာလည်နေခြင်းကို အပြန်ပြန်စဉ်းစားသုံးသပ်တော်မူခဲ့ပြီး မိမိ၏ ရှေ့အနာဂတ်အရေးအား အမျှော်အမြင်တရားနှင့် ဆင်ခြင်ကာ ဥယျာဉ်မှူး အားသေဒဏ်မှ လွတ်စေ ဟူသော အမိန့်ပေး၍ "အလှည့်" ကိုရှောင်ကွင်း ခဲ့လေသည်။ ဥယျာဉ်မှူးမှာလည်း အလျှောက်ကောင်းသဖြင့် အထောင်း သက်သာသွားခဲ့ရလေတော့၏။

ဤသည် "ကိုယ်ပြုသမျှ ခံရမည်" ဟူသည့် သံဝေဂယူဘွယ်ရာ ပုံပြင်လေးတစ်ပုဒ်ပင်ဖြစ်လေသည်။ မယုံလျှင် လုပ်ကြည့်ပါလေ ငရဲလည်း ရှိနေ ဝဋ်လည်းရှိနေပေ၏။ မိမိတို့လုပ်ရပ်အတွက် တန်ပြန်အကျိုး ဆက်ပင်။ (မြန်မာပုံပြင်များစာစဉ်မှ ကောက်နှုတ်တင်ပြသည်။)

အစ္စလာမ့်ရာဇဝင်တွင် သူတော်စင်တစ်ပါး၏ အကြောင်းမှာလည်း သံဝေဂတရား ရယူဘွယ်ရာ ဤသို့ရှိခဲ့ပါလေ၏။

**ငှက်ငယ်ကျိန်စာသင့်ခဲ့ရှာသော သူတော်စင် အဘူဘက်ကိရ် ဝတ်စ်သ္ဂီ**

အဘူဘက်ရ် စတ်စ်သွိ ဝလီသူတော်စင်သည် တောရပ်မြိုင် ခွင်သစ်ပင်တစ်ပင်၏အောက်တွင် (ဇစ်ကရ်) ဘာဝနာစီးဖြန်းနေစဉ် ငှက်ငယ်တစ်ကောင်မှာ ဝလီကြီး၏ ဦးခေါင်းထက်တွင် လာရောက် နားခိုလေ၏။ ဝလီသူတော်စင်အဘူဘက်ရ် ဝတ်စ်သွိ သခင်သည်မိမိ၏ ဦးခေါင်းထက်တွင် နားခိုလာသည့်ငှက်ငယ်အား ကျီစယ်လိုသောသဘော

ဖြင့် ဖမ်းယူလိုက်လေရာ အလွယ်တကူပင် လက်၌ပါလာလေသည်။ လက်တွင်းမှ ငှက်ငယ်မှ ထိတ်လန့်မှုဖြင့် တဖျတ်ဖျတ်ခါ၍ လွတ်မြောက်အံ့သောငှာ ရုံးကန်နေသကဲ့သို့သူတော်စင်၏ရှေ့တူရူမှသစ်ပင်ပေါ်တွင်အခြား ငှက်ငယ်တစ်ကောင်မှာလည်း သူတော်စင်၏ လက်ဝယ်တွင် ဖမ်းယူမိထားသည့် မိမိ၏ အဖော်ငှက်ငယ်အတွက် စိုးရိမ်စွာဖြင့် တကျီကျီ တကျာကျာ အော်မြည်ကာ ဆွေ့ဆွေ့ခုန်နေရှာသည်ကို သူတော်စင်မှ တွေ့မြင်ခဲ့ရလေသည်။ ထိုအခြေအနေများအပေါ်တွင် သူတော်စင်သည်လည်း စိတ်မကောင်းစွာဖြင့် မိမိ၏ လက်ထဲမှ ငှက်ငယ်အား မြေပေါ်သို့ ညင်သာစွာ ချလိုက်ပေတော့၏။ သို့ရာတွင် ငှက်ငယ်လေးမှာကား အကြောက်လွန်၍သေဆုံးခဲ့လေပြီ ဖြစ်၏။

သစ်ပင်ပေါ်မှ ငှက်ငယ်လေး၏ အဖော်သည်လည်း အတန်ကြာ အော်မြည်ပြီး အဝေးသို့ ပျံသန်းသွားခဲ့လေသည်။

များမကြာမီ အဘူဘက်ရ် ဝတ်စ်သွိ သခင်သည် အကြီးအကျယ်နာမကျန်းဖြစ်ကာ အိပ်ယာထဲမှာ လဲခဲ့ရလေတော့၏။ သမားတော်ဆေးဝါးများဖြင့် ကုသပါသော်လည်း အချီးအနှီးပင် အိပ်ယာထဲတွင် နှစ်ချီ၍ ကြာညောင်းသွားလေတော့၏။ အမလ်အေဘာဒသ်များမှာ ထိခိုက်ပျက်ကွက်လာပေ၏။

ဝလီသူတော်စင်ကြီးသည် အမလ်အေဘာဒသ် များပုံမှန် ပြန်လည်၍ဆောက်တည်နိုင်ရန်အတွက် အရှင်မြတ်ထံတော်တွင် တမန်တော်မြတ် မုဟမ္မဒ် صلى الله عليه وسلم ကို (ဝစီလာ) အမှီသဟဲပြုပြီး ပြည်လည်ကျန်းမာလာစေရန် အသနားခံပန်ကြား

ဒိုအာပြုခဲ့ရှာလေသည်။ ထိုည၌အိပ်မက်တွင် တမန်တော်သခင် ကြွရောက်လာတော်မူပြီး ''အသင်၏ဝေဒနာခံစားရမှုသည် သင်၏လက်တွင် ကွယ်လွန်ခဲ့သည့် ငှက်ငယ်၏ အဖော်ဖြစ်သော ငှက်ငယ်၏ (ဘဒ်ဒိုအာ) ကျိန်ဆဲမှုပင် ဖြစ်လေသည်။ ထို့အတွက်ကြောင့် အသင်သည် ခံစား၍သာနေရပေဦးမည် ဖြစ်လေသည်။ ဟုမိန့်မြွတ် အသိပေးတော်မူခဲ့လေရာ သူတော်စင်ခမျာမှာလည်းဘာမျှ မတတ်နိုင်ရှာဘဲ အိပ်ယာထဲတွင် စွဲစွဲ ပြုလျှက်နှင့်သာ နေရရှာလေ၏။

တစ်နေ့တွင် ကြောင်မတစ်ကောင်သည် သူတော်စင်၏ အိပ်ယာ နှင့်မနီးမဝေး၌ ကြောင်သားပေါက်ကလေးများကို လာရောက်၍ မွေးဖွားခဲ့ လေသည်။ မွေးဖွားပြီးလေသောအခါ ကြောင်ကလေးများအနီးသို့ မြွေဆိုးတစ်ကောင်က ကြောင်သားပေါက်ကလေးများကို မျိုရန်အတွက် ရောက်လာခဲ့လေသည်။

အဘူဘကျ်ရ် ဝတ်စ်သွီသူတော်စင်သည် မိမိအနီးရှိ တောင်ဝှေး တုတ်ကို ဆွဲယူပြီး မြွေဆိုးကို ပစ်ပေါက်လိုက်လေသည်။

မြွေဆိုးလည်း ကြောက်ရွံ့စွာဖြင့် ဝေးရာသို့ ပြေးလေတော့၏။ ထိုအခါ ကြောင်ကလေးများ၏ မနီးမဝေးမှ မိမိ၏ကလေးငယ်များ အသက်ဘေးအတွက် စိုးရိမ်ထိတ်လန့်စွာရှိနေခဲ့သည့် မိခင်ကြောင်မကြီး သည် ဝမ်းမြောက်ဝမ်းသာကျေးဇူးတင်ရှာသည့် မျက်ရည်ဝဲလျှက်ရှိသော မျက်လုံးအစုံနှင့်သူတော်စင်ကြီးအားမမှိတ်မသုံးကြည့်နေခဲ့လေသည်။

များမကြာမီပင် သူတော်စင်၏ ဝေဒနာများပျောက်ကင်း၍ ကျန်းမာလာခဲ့လေသည်။ အမလ်အေဘာဒသ်များကိုလည်း

ပုံမှန်မပျက်ဆောက်တည်၍လာနိုင်ခဲ့လေသည်။ တစ်ညသ၌ အိမ်မက်တွင် တမန်တော်မြတ်ကြွမြန်းရောက်ရှိလာတော်မူပြီး "ယခုကဲ့သို့ အသင်၏ ဝေဒနာများပျောက်ကင်းချမ်းသာရ ခဲ့ရခြင်းမှာမိခင်ကြောင်မကြီး၏ ဒိုအာဆုမွန်ကြောင့်ဖြစ်ကြောင်း ကြောင်သားကလေးများကို မွေ့ဆိုး၏ အန္တရယ်မှ အသင်ကာကွယ်ဖါယ်ရှားပေးသကဲ့သို့ အသင်၏ဝေဒနာများ ကိုလည်း ဖါယ်ရှားပေးတော်မူပါရန်ကို အရှင်မြတ်ထံတွင် မိခင် ကြောင်မကြီးကဒိုအာဆုမွန်တောင်းဆိုခဲ့ပါကြောင်း" ကို အသိပေးမိန့်ကြား တော်မူခဲ့လေသည်။ ( ((أبوبكر الوسطي)) ـ ((تذكرة الأولياء))

ဤဖြစ်ရပ်ကြောင့် ကျွန်ုပ်တို့သိရသည်မှာ တိရိစ္ဆာန်များတွင်လည်း ဒိုအာနှင့်ဘဒ်ဒိုအာများရှိနေကြောင်း ထိုသက်ရှိတိရိစ္ဆာန်တို့၏ ဒိုအာနှင့် ဘဒ်ဒိုအာများကိုလည်း အရှင်မြတ်က လက်ခံတော်မူကြောင်းများကို သုံးသပ်ကာ အဖြေရှာ၍ တွေ့သိရလေသည်။

မိမိတို့၏ လုပ်ရပ်များအတွက် တန်ပြန်အကျိုးဆက်သည် ရှိနေပေ ၏။ လုပ်ရပ်ကောင်းအတွက် ကောင်းကျိုးရှိနေသကဲ့သို့ လုပ်ရပ်ဆိုး အတွက်မှာလည်း ဆိုးကျိုးသည်ရှိနေပေ၏။ မည်သည့်လုပ်ရပ်ကို လုပ်ဆောင်သင့်သနည်း? ဆိုသည်ကိုတော့ သင်တွေးသုံးသပ်ဆုံးဖြတ်ရန် မှာ သင့်ဝန်တာ ပင်မဟုတ်ပါလော?

ထို့ကြောင့် ကိုယ်ပြုသမျှခံရမည် မယုံရင်လုပ်ကြည့်။ "ငရဲလည်းရှိ ဝဋ်လည်းရှိ" နေပေသည်။

## ပန်းလား? ဆူးလား? အမှိုက်လား?

ကျမ်းတော်မြတ်ကုရ်အာန်တွင် အလ္လာဟ်အသျှင်မြတ်က အမိန့်ဗျာဒိတ်ထားတော်မူသည်မှာ-

"အသင်တို့သည် အမွန်မြတ်ဆုံးသော အွမ္မသ်သားများဖြစ်ကြသည်။ လူတို့အတွက် အကျိုးကျေးဇူးရှိသည်များကို ပြောဆိုကြသည်။ ကောင်းမြတ်သော လုပ်ငန်းများကို ပြုမူကြရန် တိုက်တွန်းကြသည်။ မကောင်းသော အလုပ်များကို မကျူးလွန်ကြရန်တိုက်တွန်းကြသည်။ ၎င်းအလ္လာဟ်အရှင်မြတ်အပေါ် အီမာန်စွဲယူ ယုံကြည်ကြသည်။ (၁)

ကျွန်ုပ်တို့၏ ချစ်နဗီ ရစူလ်တမန်တော်မြတ် صلى الله عليه وسلم ကလည်း ကျွန်ုပ်တို့အား သြဝါဒများ မိန့်ကြားခဲ့သည်မှာ "အကြင်သူသည်မိမိ၏ ညီ၊သား၊အစ်ကိုမွတ်စ်လင်မ်တစ်ဦးဦး၏ အလုပ်ကိစ္စအတွက်သွားလာပေးလျှင် အောင်မြင်ရန်ကျိုးပမ်းပေးလျှင် ထိုသူသည် (၁၀)နှစ်အေ့ဿေ့ကားဖ်ထိုင်ခြင်းထက် သာမြတ်ပေသည်။ အကြင်သူသည် အလ္လာဟ်အရှင်မြတ်နှစ်သက်သဘောတူရန်အတွက် တစ်ရက် အေ့ဿေ့ကားဖ် ထိုင်ခြင်းပြုလျှင် ထိုသူနှင့် ဂျဟန္နမ်ငရဲဘုံ၏ကြား၌ တံတိုင်း(၃) ခုကာဆီးပေးတော်မူလေသည်။ တံတိုင်း(၁) ခု ၏ အကျယ်သည် မိုးနှင့် မြေထက်ပို၍ကျယ်ပြန့်လေသည်။ (တစ်နေ့တစ်ရက် ၏အေ့ဿေ့ကားဖ်သည် ဤမျှခန့်မွန်မြတ်လေရာ (၁၀) နှစ်အေ့ဿေ့ကားဖ်

(١) قلت : الآية ﴿ كنتم خير أمة أخرجت للناس تأمرون بالمعروف وتنهون عن المنكر وتؤمنون بالله﴾ (آل عمران : ١١٠)

၏ အကျိုးသည်ကား ပြောဘွယ်မရှိပေ။ (١)

"မွတ်စ်လင်မ်ဟူသည်မှာ မိမိ၏လက်ဖြင့်ရင်း၊ နှုတ်ဖြင့်ရင်း၊ အခြားသူများအား ဒုက္ခမရောက်စေသော သူဖြစ်လေသည်။" (٢)

"မိမိအားဆွေမျိုးဖြတ်သူကို ဆွေမျိုးဆက်လော့။ မိမိအားညှင်းပမ်းနှိပ်စက်သူကိုခွင့်လွှတ်လော့။

---

(١)قلت : هو حديث ابن عباس عن النبي ﷺ قال : "من مشى في حاجة أخيه كان خير له من اعتكافه عشرسنين، ومن اعتكف يوما ابتغاء وجه الله جعل الله بينه وبين النار ثلاث خنادق ، كل خندق أبعد ما بين الخافقين " (رواه الطبراني في الأوسط وإسناده جيد ، مجمع الزوائد :٣٥١/٨)

(٢) قلت : هو حديث أبي هريرة رضي الله عنه قال : قال رسول الله ﷺ :(( المسلم من سلم المسلمون من لسانه ويده ......)) أخرجه البخاري في (صحيحه ، باب المسلم من سلم المسلمون من لسانه ويده ـ ر : ٩ /باب من انتظر حتى تدفن ـ ر : ٦٤٨٤) و مسلم في (صحيحه ، باب بيان تفاضل الإسلام وأي أموره أفضل ) وأبوداود في (سننه ، باب في الهجرة هل انقطعت ـ ر : ٢٤٨٣) والنسائي في (سننه الكبرى ، تفسير الهجرة ـ ر : ٨٦٤٨ / صفة المسلم ـ ر : ١١٧٢٧) والترمذي في ( سننه ، باب ماجاء في أن المسلم من سلم المسلمون من لسانه ويده ـ ٢٦٢٧) والبوصيري في (إتحافه ، باب المسلم من سلم المسلمون من لسانه ويده ـ ر : ١١٠) و الحميدي في الجمع بين الصحيحين ـ ر : ١٦٣٣) والبيهقي في ( سننه الكبرى :٢١٢٧٤) وغيرذلك ذكر الحديث المذكور في الصحاح والمعاجم و المسانيد والجوامع والسنن تركتها خشية الإطالة .

မိမိအားမကောင်းပြုသူကိုအကောင်းပြုလော့။" (၁)

အမွန်မြတ်ဆုံးသောသူသည် လူတို့အား အကျိုးအပြုဆုံးသောသူဖြစ်၏။(၂)

ဤလူ့ကမ္ဘာတွင်(၃)မျိုးသောလူသားများကို တွေ့မြင်နေရပေသည်။ "ပန်း" ကဲ့သို့လူသား၊ "ဆူး" ကဲ့သို့လူသား နှင့် "အမှိုက်" ကဲ့သို့လူသားများပင် ဖြစ်ကြသည်။

**ပန်း ၏သဘာဝ**။။ ပွင့်ဖတ်က နုအိပျော့ပျောင်းပြီး ထိတွေ့ကိုင်တွယ်သူတို့၏စိတ်နှလုံးသားအား ကြည်နူးမှုကို ဖြစ်ပေါ်စေ၏။ အရောင်အသွေးက ရှုမြင်သူတို့၏ ဘဝင်နှလုံးအား ရွှင်လန်းကြည်လင်စေ၏။ ရနံ့မွှေးတို့ကလည်း ရှူနမ်းသူတို့၏ စိတ်နှလုံးသားတွင် ချမ်းမြေ့သာယာခြင်းကို ဖြစ်ထွန်းစေ၏။ ဤကဲ့သို့ အကျိုးရှိနေမှုကြောင့်

(١) قلت : هو حديث عقبة بن عامر قال : لقيت رسول الله ﷺ فقال : "( ياعقبة بن عامر ؛ صل من قطعك ، وأعط من حرمك ، واعف عمن ظلمك ) أخرجه ابن حجر في (إطراف المسند المعتلي بأطراف المسند الحنبلي ـ ر : ٦١٠٥)، والسيوطي في ( جامع الأحاديث ـ ر : ١٣٥٧٨/ ٣٤٥٩٨/ ٤٠٦٢٦ ) والهيثمي في ( المقصد العلي ـ باب مكارم الأخلاق والعفو عمن ظلم ) وعلي المتقي في ( كنز العمال ، الفصل الثاني : في تعديد الأخلاق المحمودة ـ ر: ٦٩٢٩ ) وأحمد في (مسنده ـ ر : ١٧٤٥٢ ) والبيهقي في ( شعب الإيمان ـ ر: ٧٥٨٥ )

(٢) قلت : الحديث أخرجه السيوطي في (جامع الأحاديث ، ر: ٣٧٦٤٠ ) عن خالد بن الوليد قال ......: فقال :(( خير الناس من ينفع الناس )) و علي المتقي في (كنز العمال ، ر : ٤٤١٥٤ )

"ပန်း" တို့အားလူသားတို့မှ နှစ်သက်မြတ်နိုး ခုံမင်လိုလားကြကုန်၏။

**ဆူး ၏သဘာဝ**။ ။ ချွန်ထက်သောဆူးတို့ဖြင့် မာကျောခက်ထန်သည့် အသွင်သဏ္ဌာန်ရှိ၏။ တွေ့မြင်ရသူတို့အား စိတ်ဒုက္ခများကို ဖြစ်ပေါ်စေ၏။ ထိတွေ့မိသူတို့ကိုလည်း ထိရှစူးနှစ်၍ နာကျင်မှုများကို ခံစားရစေ၏။ ဤကဲ့သို့ စူးရှ နာကျင်စေမှုဖြင့် လူသားတို့အား ထိခိုက်ပျက်စီးမှုကို ဖြစ်စေတတ်သောကြောင့် "ဆူး" ကို လူတို့မှ ဝေးစွာရှောင်ရှားကြ လျှက် ဖျက်စီးပစ်ရန်ကိုသာ လိုလားနှစ်သက်ကြကုန်၏။

**အမှိုက် ၏သဘာဝ**။ ။ ပုံသဏ္ဌာန်အမျိုးမျိုးနှင့် ရှုပ်ထွေးပွေလီစွာ ရှိနေတတ်ပေသည်။ မြင်ရသူတိုင်း၏ စိတ်နှလုံး သား၌ နောက်ကျိ ရှုပ်ထွေးမှုများကို ခံစားဖြစ်ပေါ်စေ၏။ ထိုကဲ့သို့ လူတို့အား စိတ်အနှောက်အယှက်များကိုသာ ဖြစ်ပေါ်စေတတ်သောကြောင့် "အမှိုက်" တို့အား လူတို့မှ ဖယ်ရှားရှင်းလင်းပစ်ရန်ကိုသာ လိုလားနှစ်သက်ကြလေကုန်၏။

(၃)မျိုးသောလူသားများအနက်မှ ဤလူ့ကမ္ဘာအား အကျိုးပြု အလှဆင် ဝန်ဆောင်မှုပြုနေသော "ပန်း" တို့ပမာ လူသားတို့သည်လည်း -ဤလူ့ကမ္ဘာအား အကျိုးပြု အလှဆင် ဝန်ဆောင်မှုပြုကာ နေထိုင်သွားကြရပေမည်။ မိမိတို့၏ စွမ်းရည်စွမ်းပကား အလှတရားများဖြင့် အလှဆင်ချယ်သ၍ အကျိုးပြုသွားကြရမည်။ လူ့ကမ္ဘာကို အကျိုးပျက်စီး အကျည်းတန်စေသော "ဆူး" နှင့် အကျိုးမဲ့အချီးအနှီးဖြစ်စေသော

"အမှိုက်" တို့၏ ပမာဘဝမှလည်း လွဲဖယ်ရှောင်ရှား ကာ နေထိုင်သွားကြရပေမည်။

ဆရာဇော်ဂျီ၏ "သင်သေသွားသော်" ကဗျာတွင် "သြော် ..... လူ့ပြည်လောက ... လူ့ဘဝကား-အိုရ-နာရ- သေရ- ဦးမည်။ မှန်ပေသည်တည်း။ သို့တပြီကား သင်သေသွားသော် သင်ဖွားသောမြေ-သင်တို့မြေသည် အခြေပိုမြင့် ကျန်ကောင်းသင့်၏။ သင်၏ မျိုးသား-စာစကားလည်း ကြီးပွားတိုးမြင့် ကျန်ကောင်းသင့်၏။ ဟုရေးသားကာ မိမိတို့ မကွယ်လွန်မီ ဤလူ့ကမ္ဘာအား ကောင်းကျိုးပြု၍ထားရစ်ခဲ့ပါရန်ကို ညွှန်ပြခဲ့ပေသည်။ တိုင်းတပါးမှ ကဗျာစာသား လေးတစ်ခုတွင် လည်းခေါင်းစဉ်မှာ "ကြွေသော်လည်းမသေ၊" ငါသေလွန်သော်- ငါ၏ဂူအားသင်္ချိုင်းမြေမှာ- မဖွေရှာနှင့်။ လူသားတို့၏ နှလုံးသားမှာ ထွင်းဖောက်ဝင်ရောက်ရှာဖွေပါ။" ဟု ရေးသားထားကာ ဤလူ့ကမ္ဘာတွင် ကောင်းကျိုးပြု ဝန်ဆောင်မှုပြုခြင်းအားဖြင့် လူ့နှလုံးသား၌ ကောင်းကျိုးပြုသူကို စွဲငြိချစ်ခင် လေးစာမြတ်နိုးပြီး တန်ဖိုးထားတတ်ကြ ကြောင်း အသိပေးညွှန်ပြခဲ့လေသည်။ ထိုကဲ့သို့ လူ့ကမ္ဘာကို အလှဆင်ခဲ့သူ။ကောင်းကျိုးပြုခဲ့သူကလည်း သူ၏သင်္ချိုင်း ဂူသည် သင်္ချိုင်းမြေမှာမရှိဘဲ၊ လူတို့၏နှလုံးသား၌ရှိကြောင်းကို ရဲရင့်စွာပင် ကဗျာရေးသားဟစ်ကြွေး၍ ထားခဲ့ပေသည်။ စကြာဝဠာကမ္ဘာ၊မိုးမြေ၊နေ၊ လ၊နက္ခတာရာ၊အဟိတ်တိရိစ္ဆာန်၊တောတောင်၊ပင်လယ်သမုဒ္ဒရာ

အစရှိသည့် ကမ္ဘာ့တန်ဆာပလာ များသည် ကျရာနေရာမှ ကျရာတာဝန်ကိုကျေပွန်စွာ ထမ်းဆောင်ကြလျှက် ဤလူ့ကမ္ဘာအား အကျိုးပြု အလှူဆင် ဝန်ဆောင်မှုပြုနေကြလေသည်မဟုတ်ပါလော .....

သရက်စေ့တစ်စေ့(ဝါ)စပါးစေ့တစ်စေ့သည် မိမိ၏ ခန္ဓာကိုယ်အား ရွှံ့နွံ့များဖြင့်လူးပြီး မြေကြီးထဲတွင် အနစ်နာခံ၍မြုပ်နှံ့စတေးခဲ့ခြင်း အပေါ်မှာ- အညှောင့်ထွက်၊ အပင်ပေါက်၊အပွင့်ပွင့်၍ အသီးပေါင်း မြောက်များစွာကို သီးစေခဲ့ပြီး လူသားတို့အား စားသုံးစေကာ အကျိုးဖြစ် ထွန်းစေခဲ့လေသည်မဟုတ်ပါလော .....

ထိုနည်းပင်- လူတို့ကလည်း မိမိတို့၏ စွမ်းရည်စွမ်းပကား အလှူတရားများဖြင့် မိမိတို့၏ ဘဝစာမျက်နှာများ အပေါ်တွင် "ပန်း" တို့ပမာအလှူဆင်ချယ်သ၍ ဤလူ့ကမ္ဘာအားအကျိုးပြုသွားကြရပေမည် ဖြစ်ပေသည်။

"လူ"မှန်ပါလျှက် မိမိတို့၏ စွမ်းရည်စွမ်းပကားအလှူတရားများဖြင့် ကိုယ်ကျိုးစွန့် အနစ်နာခံကာ- "ပန်း"-ပမာ အကျိုးပြုအလှူမဆင်နိုင်ကြဘဲ- လူ့ကမ္ဘာကြီးအားကျောခိုင်းကာ မသွားမိပါစေနှင့်။ မိမိတို့၏ ကျောခိုင်း မှု(ကွယ်လွန်မှု) အပေါ်တွင်- ဤလူ့ကမ္ဘာကြီးက နှမြောတမ်းတလွမ်းဆွတ် ကာ ကျန်ရစ်ခဲ့ခြင်းက ပိုမို၍ မွန်မြတ်လှပါပေ၏။သို့မှသာ ဤလူ့ကမ္ဘာ၌ အဓိပ္ပါယ်ရှိသော လူသား၊တန်ဘိုးရှိသောလူသား၊ပီသ၍ သွားပေတော့

မည်။

## မေးစမ်းပါရစေ အို..... အဆွေ....

သင်သည်လူသားတို့အား အကျိုးပြုတတ်သော "ပန်း" လား?
သင်သည်လူသားတို့အား ထိခိုက်နစ်နာစေတတ်သော "ဆူး"လား?
သင်သည်လူသားတို့အား ရှုတ်ထွေးမှုဖြင့် နှောက်ယှက်တတ်သော "အမှိုက်" လား?

## ဆန္ဒပြု ဆုမွန်ချွေပါ ၏......

လူသားတိုင်းသည် လူ့ကမ္ဘာ ကို အကျိုးပြု အလှဆင်တတ်သော "ပန်း" တို့ ပမာ ကျင့်ကြံနေထိုင်အကျိုးပြု နိုင်ကြပါစေ။ လူ့ကမ္ဘာကို အကျိုးပျက်စီး အကျည်းတန်စေသော "ဆူး" နှင့် အကျိုးမဲ့အချည်းနှီးဖြစ်စေသော "အမှိုက်"ပမာဘဝမှလည်းလွဲဖယ်ရှောင်ရှားနိုင်ကြပါစေ ......။

°ကိုယ့်အလှကိုယ်ဆင် ယဉ်အောင်သာချယ်သ
သူ့အလှဂုဏ်သိန် ညှိုးအောင်နှိမ်မချိုးရ။
ကိုယ့်အစွမ်းကိုယ်မြှင့်တင် ပီပြင်အောင်ပြ
သူ့စွမ်းအင်သူ့လုပ်ရပ်မပုတ်ခတ်ရ။"

"လူ့လောကတွင် - သေပျော်/နေပျော်ဖြစ်ချင်ပါသလား၊" . . . .

စိတ်ကောင်းနှလုံးကောင်းထား ကောင်းတာကိုကြည့်၊ ကောင်းတဲ့စကား ကိုပြော၊ ကောင်းတဲ့စကားကိုနားထောင်၊ကောင်းတဲ့ အလုပ်ကိုပဲလုပ်၊ ကောင်းတဲ့လမ်းကိုပဲရွေးလျှောက်လျှင်"ကောင်းခြင်းမင်္ဂလာ" ဆိုတဲ့

"အကောင်း"တွေကမိမိတို့ထံ မုချမသွေရောက်လာကြပေအံ့။
နောက်ပျော်ရွှင်စွာနေ ပြုံးပြုံးလေးနေ သန့်ရှင်းသပ်ရပ်စွာဝတ်ဆင်၊အစာကို အာဟာရမျှတစွာစား (ရေစာ/လေစာချန်စား) ပါတ်ဝန်းကျင်နှင့် ဖော်ရွေရင်းနှီးစွာနေ.....။ ကိုယ့်ကြောင့် မည်သူမှ "ဒုက္ခ" မရောက်ကြစေပါနှင့်။ မကြာမီ ထိုဒုက္ခ မျိုးက ကိုယ့်ထံရောက်လာတတ်သည်။ "အဆိုး" ကိုလုပ်ဆောင်ပြီး "အကောင်း" ကိုမျှော်လင့်၍ မရပါ။ နောက် အကူအညီလိုအပ်သူများကို စွမ်းနိုင်သမျှ နုတ်အား .... လက်အား .... ငွေအားဖြင့် -ကူညီပါ။ကိုယ့်ကြောင့်သတ္တဝါများ ပျော်ကြပါစေ။

သို့ဆိုလျှင် လူဖြစ်ရကျိုးနပ်ပြီး ၂ ဘဝအောင်မြင်မည်။ လူ့လောက၌ နေပျော်/သေပျော်ဖြစ်ပေပြီ။

ပြည့်စုံကုံလုံတော်မူသော ပကတိအလှပိုင်ရှင် (ဂျမာလီယသ်) ဂုဏ်တော်ရှင် အလ္လာဟ်အရှင်မြတ်က မိမိပိုင်ဆိုင်တော်မူသော အလှတရားများဖြင့် ဤစကြဝဠာကမ္ဘာကြီးအား အလှဆင်ချယ်သပေးထားပြီး သကာလ မိမိ၏ အဖန်ဆင်းခံ (မခ်လူးက်) အပေါင်းတို့ကိုလည်း စွမ်းရည်စွမ်းပကားအလှတရား အရည်အချင်းများကို ပေးအပ်ချီးမြှင့် ပိုင်ဆိုင်စေတော်မူခဲ့လေသည်။

အသိပညာရှင်များ အတတ်ပညာရှင်များ အတွေးအခေါ်ပညာရှင်များအနုပညာရှင်များ လေ့လာရှာဖွေမှုပညာရှင်များ သိပ္ပံပညာရှင်များ

စသည်တို့ကို အလ္လာဟ်ဟု အရှင်မြတ်က ဖန်ဆင်းတော်မူပြီးလျှင် ဤစကြာဝဠာကမ္ဘာလောကကြီး၏ အလှတရားများအား ရုပ်လုံးပေါ်လွင်ထင်ရှားစေခဲ့လေသည်။

(အရ္ှရဖွလ် မခ်လူးကားသ်) အမြင့်မြတ်ဆုံး အဖန်ဆင်းခံလူသားတို့သည်လည်း အရှင်သခင်ချီးမြှင့် ပေးသနား တော်မူထားသည့် ထိုစွမ်းရည်စွမ်းပကားအလှတရားအ ရည်အချင်းများဖြင့် ဤလူ့ဘုံလောကီအား (ကျရာနေရာ) အရှင်အသုံးချရာနေရာမှ မိမိတို့၏ အလှတရားစွမ်းအားအပြည့် စွမ်းအင်အပြည့်နှင့်အလှဆင်ချယ်သကြရမှာ ကလူသားတို့၏ တာဝန်ပင်ဖြစ်ပါလေ၏။ (အကျိုးအပြုဆုံးလူသားသည် အမွန်မြတ်ဆုံးဖြစ်ကြောင်း) ဟဒီးဆ်တော်မှာ လာရှိထားသည့်အတွက် သက်ရှိတိုင်းအပြန်အလှန်အကျိုးပြုကြရမည်ဖြစ်၏။

## အကျိုးပြုသည်မှာ အလှတရား

အလှတရားဆိုသည်မှာ အကျိုးပြုခြင်းပင်ဖြစ်ပါ၏။

☆မိုး-မြေ-နေ-လ-နက္ခတ်တာရာ-တော-တောင်-လေ-ရေ-လူသားနှင့် တိရိစ္ဆာန်များအားလုံးတို့ဟာ အလဟဿ အကျိုးမဲ့ဖန်ဆင်းထားတော်မူသည်မဟုတ်ပါ။

☆လူသားတို့အား အကျိုးပြုရန်အတွက် သက်သက်ဖန်ဆင်းထားခြင်းသာ။

☆လူသားတို့ကိုလည်း အကျိုးမဲ့ဖန်ဆင်းထားတော်မူခြင်းမဟုတ်ပါ

မိမိအရှင်သခင်၏ (အေဘာဒသ်) အမိန့်တော်များကို နာခံစေလျှက် (ဂျန္နသ်) သုခဘုံ (၈) ထပ်ရွှေဘုံမြတ်၌ စံစားကြစေရန်အတွက်သာ ဖန်ဆင်းထားတော်မူခြင်းပါ။

☆ ထိုရွှေဘုံသား ဂျန္နသီတို့အား နောင်တမလွန်အာခေရသ်၏ ထာဝရစီးစိမ်များကို ရရှိစံစားနိုင်ကြစေရန်အတွက် ဤလောကီဌာန ယာယီဘဝမှာ အလ္လာဟ်အရှင်မြတ်က မိမိ၏ အမိန့်တော်မြတ်များကို ချမှတ်လိုက်နာစေလျှက် ကျိုးပမ်းနာခံခိုင်းထားခြင်းသာ။

☆ဤခေတ္တယာယီလောကီသက်တန်း၌ အရှင်မြတ်၏ အမိန့်တော်တောင်းဆိုမှုများကို လိုက်နာကျိုးပမ်းနာခံကြခြင်းအားဖြင့် မအို၊မနာ၊မသေ နေရမည့် နောင်အာခေရသ် တမလွန်လောက ထာဝရသက်တန်းတွင် အမိန့်များကို လိုက်နာကျိုးပန်းခဲ့သူတို့၏ လိုလားတောင်းဆိုချက်ဆန္ဒတိုင်းအား ပြည့်ဝစွာဖြည့်ဆည်း ပေးသနားချီးမြှင့်တော်မူမည်သာ။

☆ဂျန္နသ်၏ စည်းစိမ်များစွာအနက်မှ ဖန်ဆင်းသောအရှင် ကျွေးမွေးသောအရှင် စိုးပိုင်သော အရှင်ဖြစ်တော်မူသော မိမိတို့၏ အရှင်သခင်အား ဒီဒါရ်ပြု ဖူးမြင်ရခြင်း၏ စည်းစိမ်သည်ကား အကြီးမားဆုံး စည်းစိမ်တော်ပါ။ ဂျန္နသ်၏စည်းစိမ်များကိုပင် မေ့၍သွားစေမည်သာ။

☆ချစ်ရစူလ်မိန့်မြွက်တော်မူခဲ့သည်မှာ ဂျန္နသ်၏ စည်းစိမ်ဟူသည်

မည်သည့်မျက်စိ မည်သည့်နား မည်သည့်စိတ်နှလုံးသားတွင်မှ မမြင်၊မကြား၊ မတွေးဘူးသောစည်းစိမ်တော်များသာလျှင်ဖြစ်ကြောင်း ……

☆ထို့ကြောင့် အို ရွှေဘုံသားတို့ ယာယီနှင့် ထာဝရ ဒွန္ဒယာနှင့် အာခေရသ်ကို အလဲအလှယ်ပြုလုပ်ကြရမည်။

☆ ဤလောကီယာယီဘဝ၌ ကျွန်ုပ်တို့က အရှင်သခင်၏ အမိန့်တော်များအား နာခံဆောင်ရွက်လျှင်ထာဝစဉ် ဘဝတမလွန် အာခေရသ် လောကတွင် ကျွန်ုပ်တို့၏ လိုအင်ဆန္ဒအဝဝတို့ကို အရှင်မြတ်က ပြည့်စုံကုံလုံစွာဖြည့်ဆည်းပေးသနားတော်မူမည်သာ။

☆မည်သူသည် အလ္လာဟ့်အတွက် ဖြစ်မည်နည်း။ အလ္လာဟ်သည် ထိုသူအတွက် ဖြစ်ပေမည်။ ဟု မိန့်ခွန်းတော်လာရှိထားသည်သာ။

☆လူသားကို ထာဝရ (အာခေရသ်) အတွက် ဖန်ဆင်းထားခြင်း ဖြစ်သောကြောင့် ဤလောကီယာယီဘဝတွင် မိမိအရှင်သခင်၏ အမိန့်တော်မြတ်များအား နာခံကျင့်သုံးလိုက်နာကြပြီး ဂျန္နသ်(၈) ထပ်ရွှေဘုံမြတ်ကို မျက်ခြေမပြတ်ကြပါစေနှင့်။

☆အမှန်တကယ်မှာ လူသားတို့၏ မူရင်းဌာနေမှာ ဂျန္နသ်သုခဘုံပါ။

☆ဖခင်ကြီး အာဒမ် (အလိုင်ဟိစ္စလာမ်) သခင်အား ရွှေဘုံသားအဖြစ်စတင် ဖန်ဆင်းတော်မူပြီးလျှင် ဂျန္နသ်သုခဘုံ၌ချီးမြှင့် စံစားစေသော်ငြားလည်း ရှိုင်သွာန်ဟူသော မာရ်နတ်ဆိုးကြောင့်

ထိုရွှေဘုံမြတ်အား ခေတ္တစွန့်ခွာကျောခိုင်းကာဖြင့် ဤလောကီဌာန လူ့ဘဝသို့ ရောက်ရှိလာခဲ့ရခြင်းပါ။

☆ထို့အတွက်ကြောင့်ပင် ဖန်ဆင်းတော်မူသော အရှင်သခင်က လူသားတို့အား မိမိတို့၏ နေရင်းဌာနေ ဂျန္နသ်ရွှေဘုံမြေသို့ ပြန်နေပိုင်ဆိုင် ရယူနိုင်ကြစေရန်အလို့ငှာ (နွတ်စ်ရယ်တော်) ကူညီမှုများစွာအား ပေးသနားတော်မူခဲ့သည်သာ။

☆ဥပမာအားဖြင့် လမ်းမှန်ပြရန် နဗီ၊ရစူလ်သခင်များ ကျမ်းစာ တော်များ (ရမ္ဗဇာန်ရာသီ၊ဟဂ်ျရာသီ) ကဲ့သို့သော အချိန်ရာသီများကို ပေးသနားချီးမြှင့်တော်မူလျှက် အမလ်အေဘာဒသ်များ ကိုပြုလုပ်စေပြီး ကြင်နာစွာဖေးမ ကူညီလမ်းမှန်ပြပေးသနားတော်မူခဲ့လေသည် မဟုတ်ပါလော့……

☆လူသားတို့၏ တာဝန်မှာကား ထိုကြင်နာသောဂရုဏာတော်ရှင် ၏ အမိန့်ပညတ်တော်မြတ်များ ကို တသဝေမတိမ်းနာခံကျင့်ကြံရန်သာ။

☆ထိုကဲ့သို့ အမိန့်တော်မြတ်များအား နာခံကျိုးပန်းနိုင်ကြစေရန် အတွက် လူသားတို့၏ လိုအပ်ချက်အားလုံးတို့ကို လည်းထိုအရှင်သခင်က ပင်လျှင် ပြည့်စုံစွာတာဝန်ယူဖြည့်ဆည်းပေးသနားထား သည်-သာ။

☆လူသားတို့က မိမိတို့ကိုယ်တိုင်သည် ဂျန္နသီရွှေဘုံသားများ ဖြစ်ပါကြောင်း ကိုတော့ဖြင့် မျက်ချေ မပြတ် သတိမလပ်ကြစေဘဲ နေရင်း ဌာနေရွှေဘုံမြေသို့ ပြန်လည်ရောက်ရှိနေနိုင်ကြရန်အတွက် ဤလောကီ

ယာယီဘဝမှာ အရှင့်အမိန့်နာခံကြပြီး ကျိုးပန်းရယူကြရမည်သာ။

☆လောကီ၏ အဆောင်အယောင်များကြားအလယ်မှာ လှဲ့ဖျားမှုများကို မခံကြရပါစေနှင့်။ ကာဖေရ် တို့၏ ဂျန္နသ်ကို မလုယူမိကြပါစေနှင့်။ ခဏတာယာယီဘဝမှာ ပိုင်ဆိုင်မှုဆိုတာ ဘာမှမရှိပါ။ (မော့သ်) ဟူသော သေခြင်းတရား ဆိုက်ရောက်လာသည်နှင့် ဆုပ်ကိုင်ထားပြီးသော အရာအားလုံးကို လက်လွှတ်စွန့်ခွာထားရစ်ခဲ့ရမှာအသေအချာပါ။

☆မိမိ၏အရှင်သခင်အားမေ့လျော့စေသည့်အရာတိုင်းဟာ ဒွန္နယာပါ။ ချစ်ရစူလ်က (ဒွန္နယာသည် ပုပ်နေသောအသေကောင်ဖြစ်၏။ ထိုအပုပ်ကို (တကုပ်ကုပ်) ရှာဖွေသူမှာ ခွေးတိရိစ္ဆာန် သာလျှင်ဖြစ်ကြောင်း) မိန့်တော်မူခဲ့လေရာ ခွေးပမာ ဒွန္နယာကို မရှာဖွေမိပါစေနှင့်။

☆အရှင်သခင်ကလည်း (ကေယာမသ်နေ့တွင် (အသင်တို့သည် ခြေလေးချောင်းတိရိစ္ဆာန်များကဲ့သို့ ဝမ်းစာရှာဖွေရေးတွင် သာလျှင် လုံးပန်း၍ ပြန်လာခဲ့ကြပါသလော။) ဟု အမေးတော်ရှိမည်ဖြစ်ကြောင်း သိမှတ်ရပေရာ လူစင်စစ်မှ ခွေး၊တိရိစ္ဆာန်မဖြစ်ကြပါစေနှင့်။ ဤလောကီမှာ မိမိအတွက် သတ်မှတ်ချီးမြှင့်ပေးသနားတော်မူထားသော မိမိ၏ ဝေစုကျရရှိထားသည့် ဤလောကီစည်းစိမ်တို့၏ အပေါ်တွင် ရောင့်ရဲတင်းတိမ်ကြပါလေကုန်။ ထိုစည်းစိမ်တို့အား အလဟဿ အချီးနှီး မဖြစ်ကြစေရန်အတွက် အရှင်သခင်နှစ်သက်ရာလမ်းမှာ သုံးစွဲလှူဒါန်းကြပါလေကုန်။ နောင်တမလွန်တွင် ထာဝရစည်းစိမ်ရရန်အတွက်ကို လည်း

အေဘာဒသ်ပြု (အမိန့်နာခံ၍) ကျိုးပမ်းကြပါလေကုန်။

☆ဖန်ဆင်းရှင်၏ ရည်ရွယ်ချက်မှာ လူသားတို့အား မည်သည့်အတွက် ဖန်ဆင်းတော်မူခဲ့ကြောင်းကို ပြန်လည် တွေးခေါ်မျှော်မြင်ကြလျှက် (အေဘာဒသ်) အရှင့်အမိန့်တော်များကို နာခံရန်အတွက် လျှင်မြန်စွာ ကျိုးပန်းကြပါလေကုန်။ လူပီပီ လူလိုကျင့်၍ လူ့တာဝန်များကို လည်းကျေပွန်ကြပါလေကုန်။

☆မိမိတို့မှာ ခွေဘုံသားများဖြစ်သည်ကိုမေ့မထားကြပါနှင့်။

ဘယ်ကလာသလဲ? ဂျန္နသ်က လာသည်။

ဘာလုပ်ဖို့လာသလဲ? အရှင့်အမိန့်နာခံရန် (ရောက်လာသည်။)

ဘာလုပ်နေတာလဲ?အရှင့်အမိန့်များကို နာခံဆောင်ရွက်နေသည်။

ဘယ်ကိုပြန်မှာလဲ?ဂျန္နသ်ကိုပဲပြန်မည်။

"ခွေဘုံသားဟေ့ မမေ့နဲ့နော်" ဟု တပ်လှန်းနှိုးဆော် - အကျိုးမျှော်ရင်း - မွတ်စ်လင်မ်အချင်းချင်း ရိုင်းပင်းကူညီ - အတူတူသွားမည် - ဂျန္နသ်ဆီသို့-လူသားတို့၏ မူရင်းဌာနေ - ခွေဘုံမြေပါ။

ဒို့တစ်တွေက - ခွေဘုံသားမို့ - ငရဲနဲ့များ - လားလားမှမတန် - အရှင်သခင်၏ အမိန့်များကို မဖီဆန်ကြပါနှင့်။

ဟု အကြံပြုနှိုးဆော်ရင်း ဤ (အလှူစွမ်းရည်) ရေးသားခြင်းအား နိဂုံးချုပ်အပ်ပါသည်။

الحمدلله الذي بنعمته تتم الصالحات.

မှီးငြမ်းစာစဉ်များ

| ١ | القرآن الكريم | |
|---|---|---|
| ٢ | الصحيح للإمام البخاري | الإمام محمد بن إسماعيل البخاري |
| ٣ | الصحيح للإمام مسلم | الإمام مسلم بن الحجاج القشيري |
| ٤ | السنن للإمام أبي داود | الإمام سليمان بن الأشعث السجستاني |
| ٥ | السنن للإمام الترمذي | الإمام محمد بن عيسى الترمذي |
| ٦ | السنن الكبرى | الإمام أحمد بن علي النسائي |
| ٧ | السنن لابن ماجة | الإمام محمد بن يزيد ابن ماجة القزويني |
| ٨ | مسند أبي يعلى | الإمام أحمد بن علي الموصلي |
| ٩ | إتحاف الخيرة المهرة | الإم البوصيري |
| ١٠ | المعاجم الثلاثة | الإمام الطبراني |
| ١١ | جامع الأحاديث | الإمام السيوطي |
| ١٢ | جامع الأصول في أحاديث الرسول | الإمام ابن الأثير |
| ١٣ | كنز العمال | الإمام علاء الدين المتقي |
| ١٤ | شعب الإيمان | الإمام البيهقي |
| ١٥ | السنن الكبرى | الإمام البيهقي |
| ١٦ | الجمع بين الصحيحين | الإمام الحميدي |

| ١٧ | اللؤلؤ والمرجان فيما اتفق عليه الشيخان | الشيخ فؤاد عبد الباقي |
|---|---|---|
| ١٨ | المؤطأ | الإمام مالك بن أنس |
| ١٩ | تهذيب الآثار | الإمام الطبري |
| ٢٠ | جمع الجوامع | الإمام السيوطي |
| ٢١ | مصنف ابن أبي شيبة | الإمام عبدالله بن محمد الكوفي |
| ٢٢ | صحيح ابن حبان | الإمام محمد بن حبان التميمي |
| ٢٣ | المسند | الإمام أحمد بن حنبل |
| ٢٤ | سنن الدارمي | الإمام عبدالله بن عبدالرحمن الدارمي |
| ٢٥ | مصنف عبد الرزاق | الإمام عبد الرزاق بن همام الصنعاني |
| ٢٦ | إطراف المسند المعتلي بأطراف المسند الحنبلي | الإمام أحمد بن علي بن حجر العسقلاني |
| ٢٧ | المقصد العلي في زوائد مسند أبي يعلى الموصلي | الإمام علي بن أبي بكر الهيثمي |
| ٢٨ | المقاصد الحسنة | الإمام السخاوي |
| ٢٩ | تذكرة الأولياء | قصة الشيخ أبوبكر الوسطي |
| ٣٠ | မြန်မာပုံပြင်များ | |
| ٣١ | အစွလာမ့်အလင်းစာစောင် | 1973-ဖေဖဝါရီလထုတ်-အစောင်(၃) |

ကိုယ့်အလှကိုယ်ဆင် ယဉ်အောင်သာချယ်သ

သူ့အလှသူ့ဂုဏ်သိမ် ညှိုးအောင်နှိမ်မချိုးရ။

ကိုယ့်အစွမ်းကိုယ်မြင့်တင် ပီပြင်အောင်ပြ

သူ့စွမ်းအင်သူ့လုပ်ရပ် မပုတ်ခတ်ရ။